




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - .......၇၁၃.......... / ၂၀၀၉ ။ ၂၀၀၉ ခုနှစ်၊ နိုဝင်ဘာ လ ၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ............ ဦးနေဝင်းကျော်

(ခ) အဘအမည် ............ ဦးစိုင်းထွန်းရီ

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ............ ၅ /စကန (နိုင်) ၀၀၉၆၄၃

(ဃ) နေရပ်လိပ်စာ ............ တိုက်အမှတ်(၃)၊ အခန်း(၃၀၂)၊ ကမ္ဘာအေးဘုရားလမ်း နှင့် ပြည်လမ်းထောင့်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ............ သော်တာဝင်းဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Thaw Tar Win Construction Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ............ BOT စနစ်ဖြင့် လမ်းပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ............ ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ မိတ္ထီလာ-မန္တလေး လမ်းအပိုင်း (၈၇မိုင်၊ ၇ဖာလုံ)။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ............ ၅၅၇၇၅.၀၀ (သန်း) ( ကျပ်သန်း ငါးသောင်း၊ ငါးထောင်၊ ခုနစ်ရာ၊ ခုနစ်ဆယ့်ငါး)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၂၀ /၂၀၀၉ (မနသ)

နေပြည်တော်၊ ၁၃၇၁ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် ၁ ရက်

(၂၀၀၉ ခုနှစ်၊ နိုဝင်ဘာလ ၂ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Thaw Tar Win Construction Co., Ltd.)မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းပိုင် ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး ၏ မိတ္ထီလာ-မန္တလေး လမ်းအပိုင်း (မိုင်တိုင် ၃၃၈/၀ မှ ၄၂၂/၅ အထိ ၈၄ မိုင်၊ ၅ ဖာလုံ နှင့် ပုလိပ်မြို့ မြို့ရှောင်လမ်း ၃ မိုင်၊ ၂ ဖာလုံ၊ စုစုပေါင်း ၈၇ မိုင်၊ ၇ ဖာလုံ) အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် အဆိုပြုချက်အား (၁၇-၇-၂၀၀၉) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၂၅ /၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအား ဖြင့် သဘောတူညီခဲ့ပြီး (၂၃-၉-၂၀၀၉ ) နေ့ တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၃၂/၂၀၀၉) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက် အရ ( ၂၁-၁၀-၂၀၀၉) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာ နိုင်ငံတော် အစိုးရအဖွဲ့၏ ( ၄၀ /၂၀၀၉) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Thaw Tar Win Construction Co., Ltd.)အား ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ မိတ္ထီလာ-မန္တလေး လမ်းအပိုင်း (၈၇ မိုင် ၊၇ ဖာလုံ ) အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၇၁၃/ ၂၀၀၉ ကို ထုတ်ပေး လိုက် သည်။

၂။ သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Thaw Tar Win Construction Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။ ဥပဒေပုဒ်မ ၁၃ မှ လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ခံစားလိုပါက ဤကော်မရှင် သို့ လျှောက်ထားနိုင်သည်။

၃။ သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Thaw Tar Win Construction Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်း ချက်ကို အနိမ့်ဆုံး ရည်မှန်းချက် အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Thaw Tar Win Construction Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Thaw Tar Win Construction Co., Ltd.)သည် မိတ္ထီလာ-မန္တလေး လမ်းအပိုင်းအား BOT စနစ်ဖြင့် ဆောင်ရွက်ရာ တွင် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ချုပ်ဆိုမည့် BOT ပဋိညာဉ် စာချုပ်ပါ သတ်မှတ်ချက် စည်းမျဥ်း စည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရ မည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်း နှင့် သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Thaw Tar Win Construction Co., Ltd.)တို့ ချုပ်ဆိုမည့် ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး ၏ မိတ္ထီလာ-မန္တလေး လမ်းအပိုင်း (၈၇ မိုင်၊ ၇ ဖာလုံ)အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လုပ်ငန်း လုပ်ကိုင် ရေး ပဋိညာဥ်စာချုပ် လက်မှတ်ရေးထိုးပြီးသည့် အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၇။ သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Thaw Tar Win Construction Co., Ltd.)၏ ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ မိတ္ထီလာ-မန္တလေး လမ်းအပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း သက်တမ်းမှာ နှစ်(၄၀) ဖြစ်သည်။ လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့် နေ့ သို့မဟုတ် လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက်ကာလမှ စတင်သတ်မှတ်ရမည် ။

၈။ လမ်း၊ တံတား အသုံးပြုခ ရငွေ အပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည်။

| | | | |
|---|---|---|---|
| (က) | ပထမ (၃)နှစ် အတွက် | - | ကင်းလွတ်ခွင့်ကာလ |
| (ခ) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | - | ၅% ပေးသွင်းရန် |
| (ဂ) | (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် | - | ၁၀% ပေးသွင်းရန် |
| (ဃ) | (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ(၁၀)နှစ် | - | ၁၅% ပေးသွင်းရန် |

(င) (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ(၇)နှစ် - ၂၀% ပေးသွင်းရန်

၉။ လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသည့်ကာလများ ပြီးဆုံးပါက အဆိုပါ လမ်းနှင့် တံတား များ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မပါရှိဘဲ လွှဲပြောင်းပေးရမည်။

၁၀။ သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Thaw Tar Win Construction Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Thaw Tar Win Construction Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Thaw Tar Win Construction Co., Ltd.)သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤ ခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက်အစီရင်ခံရမည်။ ထို့ပြင်လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Thaw Tar Win Construction Co., Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှ

ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိ ကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကိုပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၅။ သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Thaw Tar Win Construction Co., Ltd.)သည် အဆိုပြုလမ်း အပိုင်း တရားဝင် ဖွင့်လှစ်သည့် နေ့ရက် နှင့် စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက် တို့ကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ-၉၇၁/၂၀၀၉( ၁၉၆၉၅ )

ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ နိုဝင်ဘာ လ ၂ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ မန္တလေးတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး ၊ မန္တလေးမြို့။
၅။ စာရင်းစစ်ချုပ်ရုံး။
၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။
၇။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၈။ အလုပ်သမား ဝန်ကြီးဌာန။

၉။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၀။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန။

၁၂။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၄။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၅။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၆။ အုပ်ချုပ်မှုဒါရိုက်တာ၊ သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Thaw Tar Win Construction Co., Ltd.)

လျှို့ဝှက်

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက- ၆(ခ)/မ- လမ်း/ ၂၀၀၉(၁၈၈၃၈)၊
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ အောက်တိုဘာလ ၁၅ ရက်။

## ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ။ ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ လမ်းအပိုင်းများအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ကို ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ရန် အတွက် အဆိုပြုချက်များ တင်ပြခြင်းကိစ္စ။

၁။ ရန်ကုန်- မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ အောက်ပါ လမ်းအပိုင်း စုစုပေါင်း(၈)ပိုင်း အား ကုမ္ပဏီ (၇)ခုမှ BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ကော်မရှင် ခွင့်ပြုမိန့် ရရှိရေး အတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် * | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ထောက်ကြံ့ - ပဲခူး | ၃၂ မိုင်၊ ၆ ဖာလုံ | ကျပ် ၁၁၃၁၈.၅၁ သန်း (US$ ၆.၂၅ သန်း အပါအဝင်) | မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၂။ | ပဲခူး - ညောင်လေးပင် | ၄၈ မိုင် | ကျပ် ၁၃၅၀၂.၃၀ သန်း | ရွှေသံလွင်အဝေးပြေး လမ်းမကြီး ကုမ္ပဏီ လီမိတက် |
| ၃။ | ညောင်လေးပင်-ဇေယျဝတီ | ၄၈ မိုင် | ကျပ် ၁၁၄၀၂.၇၀ သန်း (US$ ၁၄.၂၉ သန်း အပါအဝင်) | ဟိုက်စတား ကုမ္ပဏီ လီမိတက် |
| ၄။ | ဇေယျဝတီ - ရေတာရှည် | ၄၈ မိုင် | ကျပ် ၂၇၁၀၇.၆၂ သန်း (US$ ၉.၃၁ သန်း အပါအဝင်) | ကမ္ဘောဇလမ်းကြောင်း ရှာဖွေရေး စက်မှု လုပ်ငန်းများလီမိတက် |

လျှို့ဝှက်

Yan – Man Cab

| စဥ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် * | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၅။ | ရေတာရှည် - ပျဉ်းမနား | ၃၉ မိုင်၊ ၅.၅ ဖာလုံ | ကျပ် ၂၀၆၉၇.၃၀ သန်း (US$ ၀.၄၃ သန်း အပါအဝင်) | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် |
| ၆။ | ပျဉ်းမနား - ရမည်းသင်း | ၄၅ မိုင်၊ ၄.၅ ဖာလုံ | ကျပ် ၂၂၁၀၉.၃၀ သန်း (US$ ၀.၄၃ သန်း အပါအဝင်) | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် |
| ၇။ | ရမည်းသင်း - မိတ္ထီလာ | ၄၈ မိုင် | ကျပ် ၂၁၆၀၀.၀၀ သန်း | ယုဇန ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၈။ | မိတ္ထီလာ - မန္တလေး | ၈၇ မိုင်၊ ၇ ဖာလုံ | ကျပ် ၅၅၇၇၅.၀၀ သန်း | သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

* ရန်ကုန် - မန္တလေးလမ်းအရှည်မှာ ၃၉၇ မိုင် ၂ ဖာလုံ ရှိပါသည်။

၂။ အထက်ပါ အဆိုပြုချက်များအနက် အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သော ရေတာရှည်- ပျဉ်းမနား နှင့် ပျဉ်းမနား- ရမည်းသင်း လမ်းအပိုင်း (၂)ခု အား (၂၉-၇-၂၀၀၉) နေ့ တွင် ကျင်းပသော ကုန်သွယ် မှုမူဝါဒကောင်စီ ၏ (၂၄/၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် - နောက်ဆက်တွဲ (က) နှင့် (ခ)

(က) အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်မှ ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး ၏ (ရေတာရှည် - ပျဉ်းမနား) နှင့် (ပျဉ်းမနား - ရမည်းသင်း) လမ်းအပိုင်း တို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခများ ကောက်ခံရန်၊

| စဥ် | ယာဥ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း (ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဥ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဥ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဥ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်ထိကုန်တင်ယာဥ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

(ခ) လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို ယင်းတံတား တည်ဆောက်သည့်ကုမ္ပဏီကသာ ကောက်ခံရန်နှင့် တံတားတည်ဆောက်သည့်ကုမ္ပဏီ မဟုတ်ပါက လေလံဖြင့်သာ ဆောင်ရွက်ရန်၊

(ဂ) "အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်သည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်လုပ်ကိုင်ခွင့်မပြုရဘဲ လုပ်ငန်း တစ်စိတ် တစ်ဒေသကိုမူ တစ်ဆင့် လုပ်ကိုင်ခွင့် ပြုနိုင်သည်" ကို ထည့်သွင်းဖော်ပြခြင်းမပြုရန်၊

၃။ ထို့အပြင် ကျန်လမ်းအပိုင်း(၆)ခုအား (၂၃-၉-၂၀၀၉)နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၁၂/ ၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -
<u>နောက်ဆက်တွဲ (ဂ)</u>

(က) ရန်ကုန်-မန္တလေးပြည်ထောင်စု လမ်းမကြီး၏ အောက်ပါ လမ်းအပိုင်း(၆)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်း လုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်။

(၁) ထောက်ကြံ့ - ပဲခူးလမ်းအပိုင်း (၃၂ မိုင် ၆ ဖာလုံ)
(မက်စ်(မြန်မာ) ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

(၂) ပဲခူး - ညောင်လေးပင် လမ်းအပိုင်း (၄၈ မိုင်)
(ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီ လီမိတက်)

(၃) ညောင်လေးပင် - ဇေယျာဝတီ လမ်းအပိုင်း (၄၈ မိုင်)
(ဟိုက်စတား ကုမ္ပဏီလီမိတက်)

(၄) ဇေယျာဝတီ - ရေတာရှည် လမ်းအပိုင်း (၄၈ မိုင်)
(ကမ္ဘောဇလမ်းကြောင်းရှာဖွေရေးစက်မှု လုပ်ငန်းများ လီမိတက်)

(၅) ရမည်းသင်း - မိတ္ထီလာ လမ်းအပိုင်း (၄၈ မိုင်)
(ယုဇန ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)

(၆) မိတ္ထီလာ - မန္တလေးလမ်းအပိုင်း (၈၇ မိုင် ၇ ဖာလုံ)
(သော်တာဝင်း ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

(ခ) နောင်နှစ် တံတားများ လေ လံပစ်သည့်အခါတွင် အသုံးပြုနိုင်ရန်အတွက် လမ်း၊ တံတား အသုံးပြုသည့် ကားစီးရေကို သေချာစွာ ကောက်ခိုင်းရန်။

(ဂ) ရန်ကုန်- မန္တလေး ပြည်ထောင်စုလမ်းမကြီးပေါ်ရှိ တံတားများ၏ ပြုပြင်ထိန်းသိမ်းရေး လုပ်ငန်းများကို သက်ဆိုင်ရာ ကုမ္ပဏီများအား တာဝန်ယူဆောင်ရွက်စေရန်။

၄။ ယခုတင်ပြသည့် အဆိုပြုလမ်းအပိုင်း (၈)ပိုင်းတွင် ကုန်သွယ်မှု မူဝါဒကောင်စီ ၏ (၂၄/၂၀၀၉)(၂၉-၇-၂၀၀၉) အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ တံတားခကောက်ခံသည့်ကိစ္စနှင့် လုပ်ငန်းတစ်ဆင့်ခံ လုပ်ကိုင်ခြင်း ကိစ္စများကို ပဋိညာဉ်စာချုပ် (မူကြမ်း) များတွင် ပြင်ဆင်တင်ပြထားပါသည်။ ရန်ကုန် - မန္တလေး လမ်းအပိုင်းရှိ (၁၈၀) ပေ အထက် တံတားများတွင် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းမှ တည်ဆောက်ထားသည့် တံတားများကို ကုမ္ပဏီများသို့ လေလံစနစ်ဖြင့် ဆောင်ရွက်စေပြီး၊ ကုမ္ပဏီမှ တည်ဆောက်သည့် တံတားများအတွက် တံတား အသုံးပြုခများကို ကုမ္ပဏီမှ ကောက်ခံခြင်း စနစ်ဖြင့် ဆောင်ရွက်ပါသည်။ လမ်းအပိုင်းအလိုက် (၁၈၀)ပေ အထက် တံတား အသုံးပြုခ ကောက်ခံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။ အသေးစိတ်စာရင်းကို နောက်ဆက်တွဲ (ဃ) ဖြင့် တင်ပြအပ်ပါသည်။

**(၁၈၀) ပေ အထက် တံတားကြီးများ အသုံးပြုခ ကောက်ခံမှု**

| စဉ် | ကုမ္ပဏီအမည် | လမ်းအပိုင်း | ဌာနမှ တည်ဆောက်သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | ကုမ္ပဏီမှတည်ဆောက်သည့် တံတား (ကုမ္ပဏီမှ ကောက်ခံခြင်း) |
|---|---|---|---|---|
| ၁။ | မက်(စ်)မြန်မာ | ထောက်ကြံ့ - ပဲခူး | ၁ | - |
| ၂။ | ရွှေသံလွင် | ပဲခူး - ညောင်လေးပင် | ၆ | - |
| ၃။ | ဟိုက်စတား | ညောင်လေးပင်-ဇေယျာဝတီ | ၂ | - |
| ၄။ | ကမ္ဘောဇ | ဇေယျာဝတီ - ရေတာရှည် | ၁ | - |
| ၅။ | အေးရှားဝါး(လ်) | ရေတာရှည် - ပျဉ်းမနား | ၁ | ၁ |
| ၆။ | အေးရှားဝါး(လ်) | ပျဉ်းမနား - ရမည်းသင်း | - | ၃ |
| ၇။ | ယုဇန | ရမည်းသင်း - မိတ္ထီလာ | ၂ | - |
| ၈။ | သော်တာဝင်း | မိတ္ထီလာ - မန္တလေး | ၅ | ၃ |

၅။ ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၃၂/၂၀၀၉)(၂၃-၉-၂၀၀၉) အစည်းအဝေး လမ်းညွှန်ချက်အရ လမ်း/ တံတား အသုံးပြုသည့် ကားစီးရေစာရင်း ကောက်ယူခြင်းနှင့် တံတားများ၏ ပြုပြင်ထိန်းသိမ်းရေး လုပ်ငန်းများကို သက်ဆိုင်ရာ ကုမ္ပဏီများမှ တာဝန်ယူဆောင်ရွက်စေရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ အသိပေး အကြောင်းကြားပြီး ဖြစ်ပါသည်။

၆။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ် (မူကြမ်း) များပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လမ်း ဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေး ကာလ) မှာ (၃) နှစ် ဖြစ်ပါသည်။

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး လမ်း ဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ် ဆောင်ရွက် ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက် ကာလ မှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။

(ဂ) အဆိုပြု ကုမ္ပဏီ များမှ လမ်းအသုံးပြုခ နှုန်းများကို ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၄/ ၂၀၀၉) အစည်းအဝေးလမ်းညွှန်ချက် အတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

(ဃ) တံတား အသုံးပြုခများကို ပေ (၁၈၀) နှင့် အထက် ရှည်သည့် တံတားများ အတွက် နိုင်ငံတော် မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့်လည်းကောင်း၊ ကုမ္ပဏီ၏ ရန်ပုံငွေ ဖြင့် တည်ဆောက်သော တံတားများ အတွက် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ကုမ္ပဏီတို့ ညှိနှိုင်း သဘောတူညီသည့် နှုန်းထား ဖြင့် ကောက်ခံရမည် ဖြစ်ပါသည်။

(င) လမ်း၊ တံတား အသုံးပြုခရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည်။

| | | |
|---|---|---|
| (၁) | ပထမ (၃)နှစ် အတွက် | - ကင်းလွတ်ခွင့်ကာလ |
| (၂) | (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် | - ၅% ပေးသွင်းရန် |
| (၃) | (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် | - ၁၀% ပေးသွင်းရန် |
| (၄) | (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် | - ၁၅% ပေးသွင်းရန် |
| (၅) | (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် | - ၂၀% ပေးသွင်းရန် |

(စ) အဆိုပြုကုမ္ပဏီများသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလုပ်ကိုင်ခွင့် မပြုရပါ။

(ဆ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလနှစ်(၄၀)သို့မဟုတ်နောက်ထပ်တိုးမြှင့် ကာလများ ပြီးဆုံးပါက အဆိုပါလမ်း နှင့် တံတားများ ၊ ဂိတ်များ နှင့် အဆောက်အဦ များကို ဆောက်လုပ် ပြီးစီးချိန်ကရှိနေသော ကောင်းမွန်သည့် အနေအထား အတိုင်း ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲ လွှဲပြောင်းပေး ရမည် ဖြစ်ပါသည်။

၇။ ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၄/၂၀၀၉)နှင့်(၃၂/၂၀၀၉)အစည်းအဝေး ဆုံးဖြတ်ချက်များနှင့်အညီ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ အဆိုပြုချက်များ ပြင်ဆင်တင်ပြလာပြီး ဖြစ်ပါ၍ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။ ရန်ကုန်- မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ လမ်းအပိုင်း (၈)ပိုင်းအား ကုမ္ပဏီ (၇)ခု တို့မှ BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတားအသုံးပြုခ ကောက်ခံခြင်းနှင့် စပ်လျဉ်းသည့် စီးပွားရေးဆိုင်ရာ အသေးစိတ် အချက်အလက်များကို နောက်ဆက်တွဲ (င) မှ (ဌ) အထိ လည်းကောင်း၊ လုပ်ငန်းအဆိုပြုချက်များကို နောက်ဆက်တွဲ (ဍ) မှ (န) အထိ လည်းကောင်း ပူးတွဲ တင်ပြအပ်ပါသည်။

၈။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့နှင့်အညီ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၉။ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီးမှ အောက်ပါလမ်းအပိုင်း (၈)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုရန် သဘောတူ - မတူ။

| | | | |
|---|---|---|---|
| (က) | ထောက်ကြံ့ - ပဲခူး လမ်းအပိုင်း | (၃၂ မိုင်၊ ၆ ဖာလုံ) | မက်စ် (မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| (ခ) | ပဲခူး-ညောင်လေးပင် လမ်းအပိုင်း | (၄၈ မိုင်) | ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီ လီမိတက် |
| (ဂ) | ညောင်လေးပင်-ဖေယျာဝတီ လမ်းအပိုင်း | (၄၈ မိုင်) | ဟိုက်စတား ကုမ္ပဏီ လီမိတက် |
| (ဃ) | ဖေယျာဝတီ - ရေတာရှည် လမ်းအပိုင်း | (၄၈ မိုင်) | ကမ္ဘောဇလမ်းကြောင်း ရှာဖွေရေး စက်မှု လုပ်ငန်းများလီမိတက် |
| (င) | ရေတာရှည် - ပျဉ်းမနား လမ်းအပိုင်း | (၃၉ မိုင်၊ ၅.၅ ဖာလုံ) | အေးရှားဝါး(လ်)ကုမ္ပဏီ လီမိတက် |

| | | | |
|---|---|---|---|
| (စ) | ပျဉ်းမနား - ရမည်းသင်း လမ်းအပိုင်း | (၄၅ မိုင်၊ ၄.၅ ဖာလုံ) | အေးရှားဝါး(လ်)ကုမ္ပဏီ လီမိတက် |
| (ဆ) | ရမည်းသင်း - မိတ္ထီလာ လမ်းအပိုင်း | (၄၈ မိုင်) | ယုဇန ဆောက်လုပ် ရေး ကုမ္ပဏီ လီမိတက် |
| (ဇ) | မိတ္ထီလာ - မန္တလေး လမ်းအပိုင်း | (၈၇ မိုင်၊ ၇ ဖာလုံ) | သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

၁၀။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊

ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့။



နောက်ဆက်တွဲ (က)

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၉ခုနှစ်၊ ဇူလိုင်လ(၂၉)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒ ကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၄/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၄-ခ | ၇၀၄ | (က) အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်မှ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ (ရေတာရှည်-ပျဉ်းမနား) လမ်းအပိုင်း(မိုင်တိုင် ၁၉၄/၀ မှ မိုင်တိုင်၂၂၁/၂ အထိ) (၂၇ မိုင် ၂ ဖာလုံ) နှင့် မြို့ရှောင်လမ်း (၁၂ မိုင် ၃.၅ ဖာလုံ) စုစုပေါင်း (၃၉) မိုင် (၅.၅)ဖာလုံ ရှည်သောလမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံရန်။<br><br>စဉ် / ယာဉ်အမျိုးအစား / လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း/ကျပ်<br>(က) (၁)တန်အောက်ယာဉ်ငယ်များ — ၄ကျပ် ၁၃ပြား<br>(ခ) (၁)တန်မှ(၃)တန်အထိယာဉ်များ — ၁၂ကျပ် ၃၉ပြား<br>(ဂ) (၅)တန်အောက်ကားကြီးများ — ၂၀ကျပ် ၆၅ပြား<br>(ဃ) (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီးများ — ၄၁ကျပ် ၃၀ပြား<br>(င) (၂၀)တန်ထိကုန်တင်ယာဉ်ကြီးများ — ၈၂ကျပ် ၅၉ပြား<br>(စ) (၂၀)တန်အထက်တန်ပို(၁)တန်လျှင် — ၈ကျပ် ၂၆ပြား<br><br>(ခ) လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို ယင်းတံတားတည်ဆောက်သည့် ကုမ္ပဏီကသာ ကောက်ခံရန်နှင့် တံတားတည်ဆောက်သည့်ကုမ္ပဏီ မဟုတ်ပါက လေလံဖြင့်သာ ဆောင်ရွက်ရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်။<br>ဆောက်လုပ်ရေးဝန်ကြီးဌာန။<br><br> |



ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၉ခုနှစ်၊ ဇူလိုင်လ(၂၉)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၄/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၄-ခ | ၇၀၄ | (ဂ) စာမျက်နှာ(၃) အပိုဒ်(ဆ) " အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်သည် လုပ်ငန်းတစ်ခု လုံးအား တစ်ဆင့်လုပ်ကိုင်ခွင့် မပြုရဘဲ လုပ်ငန်းတစ်စိတ်တစ်ဒေသကိုမူ တစ်ဆင့် လုပ်ကိုင်ခွင့်ပြုနိုင်သည် " ကို ထည့်သွင်းဖော်ပြခြင်းမပြုရန်။<br>(ဃ) လမ်း၊ တံတားများမှာ standard နှင့်အညီ ဖောက်လုပ်ထားပါက ရန်ကုန် - မန္တလေး အမြန်လမ်းမနှုန်းအတိုင်း ကောက်ခံရန်နှင့် ပြုပြင်ထားရုံမျှသာ ပြုလုပ်ထားပါက လမ်း၊ တံတား အသုံးပြုခ ကောက်ခံခွင့် မပြုရန်။ | |





ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ

နောက်ဆက်တွဲ (ခ)

၂၀၀၉ခုနှစ်၊ ဇူလိုင်လ(၂၉)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၄/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေးအစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၄-၁ | ၇၀၅ | (က) အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်မှ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီး၏(ပျဉ်းမနား - ရမည်းသင်း) လမ်းအပိုင်း(မိုင်တိုင် ၂၄၈/၀ မှ မိုင်တိုင်၂၉၀/၀ အထိ) (၄၂ မိုင်) နှင့် ပျဉ်းမနားမြို့ရှောင်လမ်း (၃ မိုင် ၄.၅ဖာလုံ) စုစုပေါင်း (၄၅)မိုင် (၄.၅)ဖာလုံ ရှည်သောလမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊တံတား အသုံးပြုခကောက်ခံရန်။<br><br>စဉ် / ယာဉ်အမျိုးအစား / လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း/ကျပ်<br>(က) (၁)တန်အောက်ယာဉ်ငယ်များ — ၄ကျပ် ၁၃ပြား<br>(ခ) (၁)တန်မှ(၃)တန်အထိယာဉ်များ — ၁၂ကျပ် ၃၉ပြား<br>(ဂ) (၅)တန်အောက်ကားကြီးများ — ၂၀ကျပ် ၆၅ပြား<br>(ဃ) (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီးများ — ၄၁ကျပ် ၃၀ပြား<br>(င) (၂၀)တန်ထိကုန်တင်ယာဉ်ကြီးများ — ၈၂ကျပ် ၅၉ပြား<br>(စ) (၂၀)တန်အထက်တန်ပို(၁)တန်လျှင် — ၈ကျပ် ၂၆ပြား<br><br>(ခ) လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို ယင်းတံတားတည်ဆောက်သည့် ကုမ္ပဏီကသာ ကောက်ခံရန်နှင့် တံတားတည်ဆောက်သည့်ကုမ္ပဏီ မဟုတ်ပါက လေလံဖြင့်သာ ဆောင်ရွက်ရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။<br>ဆောက်လုပ်ရေးဝန်ကြီးဌာန။<br><br> |





ပြည်ထောင်စုမြန်မာနိုင်ငံတော်

ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၉ခုနှစ်၊ ဇူလိုင်လ(၂၉)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒ ကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၄/၂၀၀၉) မှတ်တမ်းကောက်နှုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၄-၈ | ၇၀၅ | (ဂ) စာမျက်နှာ(၃) အပိုဒ်(ဆ) " အေးရှားဝါး(လ်)ကုမ္ပဏီ လီမိတက်သည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်လုပ်ကိုင်ခွင့် မပြုရဘဲ လုပ်ငန်းတစ်စိတ်တစ်ဒေသကိုမူ တစ်ဆင့် လုပ်ကိုင်ခွင့်ပြုနိုင်သည် " ကို ထည့်သွင်းဖော်ပြခြင်းမပြုရန်။<br>(ဃ) လမ်း၊ တံတားများမှာ standard နှင့်အညီ ဖောက်လုပ်ထားပါက ရန်ကုန်-မန္တလေး အမြန်လမ်းမနှုန်းအတိုင်း ကောက်ခံရန်နှင့် ပြုပြင်ထားရုံမျှသာ ပြုလုပ်ထားပါက လမ်း၊ တံတားအသုံးပြုခ ကောက်ခံခွင့် မပြုရန်။ | |





ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ

နောက်ဆက်တွဲ (ဂ)

၂၀၀၉ခုနှစ်၊ စက်တင်ဘာလ(၂၃)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၂-က | ၇၆၆ | (က) ရန်ကုန်-မန္တလေးပြည်ထောင်စုလမ်းမကြီးမှ အောက်ပါ လမ်းအပိုင်း (၆)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်။<br>(၁) ထောက်ကြံ့-ပဲခူးလမ်းအပိုင်း (၁၂ မိုင် ၆ ဖာလုံ)<br>(မက်စ်(မြန်မာ) ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)<br>(၂) ပဲခူး - ညောင်လေးပင် လမ်းအပိုင်း (၄၈ မိုင်)<br>(ရွှေသံလွင်အဝေးပြေးလမ်းမကြီးကုမ္ပဏီလီမိတက်)<br>(၃) ညောင်လေးပင်-ဇေယျဝတီ လမ်းအပိုင်း (၄၈ မိုင်)<br>(ဟိုက်စတား ကုမ္ပဏီလီမိတက်)<br>(၄) ဇေယျဝတီ-ရေတာရှည် လမ်းအပိုင်း (၄၈ မိုင်)<br>(ကမ္ဘောဇလမ်းကြောင်းရှာဖွေရေးစက်မှုလုပ်ငန်းများလီမိတက်)<br>(၅) ရမည်းသင်း-မိတ္ထီလာ လမ်းအပိုင်း (၄၈ မိုင်)<br>(ယုဇန ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)<br>(၆) မိတ္ထီလာ-မန္တလေးလမ်းအပိုင်း (၈၇ မိုင် ၇ ဖာလုံ)<br>(သော်တာဝင်း ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)<br>(ခ) နောင်နှစ် တံတားများလေလံပစ်သည့်အခါတွင် အသုံးပြုနိုင်ရန်အတွက် လမ်း၊ တံတား အသုံးပြုသည့် ကားစီးရေကို သေချာစွာ ကောက်ခိုင်းရန်။<br>(ဂ) ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီးပေါ်ရှိ တံတားများ၏ ပြုပြင်ထိန်းသိမ်းရေးလုပ်ငန်းများကို သက်ဆိုင်ရာကုမ္ပဏီများအား တာဝန်ယူဆောင် ရွက်စေရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊<br>ဆောက်လုပ်ရေးဝန်ကြီးဌာန။ |



နောက်ဆက်တွဲ (ဃ)

**ရန်ကုန် - မန္တလေး လမ်းပေါ်ရှိ (၁၈၀) ပေ အထက် တံတားကြီးများ အသုံးပြု၍ ကောက်ခံမှု**

| စဉ် | လမ်းအပိုင်း (ကုမ္ပဏီအမည်) | ဌာနမှ တည်ဆောက် သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | ကုမ္ပဏီမှတည်ဆောက် သည့် တံတား (ကုမ္ပဏီမှကောက်ခံခြင်း) | မှတ်ချက် |
|---|---|---|---|---|
| ၁။ | ထောက်ကြံ့ - ပဲခူး (မက်စ် မြန်မာ) | ပဲခူးတံတား ၃၃၀' | - | သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊ |
| ၂။ | ပဲခူး - ညောင်လေးပင် (ရွှေသံလွင်) | ကောလိယတံတား ၁၉၆'<br>ကတုတ်တံတား ၁၉၆' | - | နှစ်စင်းပေါင်းတစ်စင်းစာ သာ သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊ |
| | | ရဲနွယ်တံတား ၃၆၀'<br>ဘိုင်းဒါးတံတား ၃၀၀' | - | နှစ်စင်းပေါင်းတစ်စင်းစာ သာ သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊ |
| | | ဒရယ်မီးတံတား ၁၈၀'<br>ခြောက်တန်တံတား ၂၁၀' | - | ကင်းလွတ်ခွင့်ပြုရန်၊ |
| ၃။ | ညောင်လေးပင် - ဇေယျာဝတီ (ဟိုက်စတား) | ကွင်းချောင်းတံတား ၃၀၀'<br>ဖြူးချောင်းတံတား ၄၆၈' | | သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊ |
| ၄။ | ဇေယျာဝတီ - ရေတာရှည် (ကမ္ဘောဇ) | ခပေါင်းတံတား ၆၀၀' | | စီမံကိန်းဝင်တံတားဖြစ်၍ စီမံကိန်းနှုန်းဖြင့်ကောက်ခံရန်။ |
| ၅။ | ရေတာရှည် - ပျဉ်းမနား (အေးရှားဝါးလ်) | ဆွာတံတား ၂၇၀' | ရှုံးပင်တံတား ၂၇၀' | သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊ |
| ၆။ | ပျဉ်းမနား - ရမည်းသင်း (အေးရှားဝါးလ်) | - | ငလိုက်တံတား ၃၀၀' | သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊ |
| | | | အဆုံတံတား ၁၉၀'<br>ဆင်သေတံတား ၂၁၀' | တံတားနှစ်စင်းကပ်နေ၍ တစ်စင်းစာသာ သာမန် တံတားနှုန်းဖြင့် ကောက်ခံရန်။ |

| စဥ် | လမ်းအပိုင်း (ကုမ္ပဏီအမည်) | ဌာနမှ တည်ဆောက် သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | ကုမ္ပဏီမှတည်ဆောက် သည့် တံတား (ကုမ္ပဏီမှကောက်ခံခြင်း) | မှတ်ချက် |
|---|---|---|---|---|
| ၇။ | ရမည်းသင်း -မိတ္ထီလာ (ယုဇန) | သူရဲချောင်းတံတား ၃၀၀' | | သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်။ |
| | | ကုန်းသာတံတား ၃၀၀' | | ကင်းလွတ်ခွင့်ပြုရန်။ |
| ၈။ | မိတ္ထီလာ - မန္တလေး (သော်တာဝင်း) | စမုံတံတား ၄၈၀'<br>မြစ်ငယ်တံတား ၈၄၀' | | သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်။ |
| | | ဝမ်းတွင်းဆည် တံတား ၂၁၀'<br>ယုဇနတံတား ၂၂၀'<br>ဇော်ဂျီတံတား ၂၁၀' | | ကင်းလွတ်ခွင့်ပြုရန်။ |
| | | | ပင်းချားတံတား ၂၂၄'<br>ဒါန်းချောင်းတံတား ၃၃၀' | သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်။ |
| | | | ရေဝန်းတံတား ၁၈၈' | ကင်းလွတ်ခွင့်ပြုရန်။ |

နောက်ဆက်တွဲ (င)

## မက်စ် (မြန်မာ) ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှဆောင်ရွက်သည့် ထောက်ကြံ့ - ပဲခူးလမ်းအပိုင်း နှင့် စပ်လျဉ်းသည့် အဓိကအချက်အလက်များ

| | | |
|---|---|---|
| ၁။ ကုမ္ပဏီအမည် | - | မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၂။ လုပ်ငန်းအဆိုပြုသူအမည် | - | ဦးဇိုးဇော် (ခ) ဦးဇော်ဇော် |
| ၃။ အဆိုပြုလုပ်ငန်း အမျိုးအစား | - | ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး ၏ ထောက်ကြံ့ - ပဲခူးလမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း |
| ၄။ လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - | ထောက်ကြံ့ - ပဲခူး (၃၂ မိုင် ၆ ဖာလုံ)<br>ထောက်ကြံ့ - ဇရပ်ကွင်းအပိုင်း<br>(မိုင်တိုင် ၁/ ၀ မှ ၁၄/ ၆ အထိ) (၁၃ မိုင် ၆ ဖာလုံ)<br>ဇရပ်ကွင်း - ပဲခူးအပိုင်း<br>(မိုင်တိုင် ၃၁/၀ မှ ၅၀/၀ ထိ) (၁၉ မိုင်) |
| ၅။ လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ | - | ထောက်ကြံ့ ဂိတ်ဟောင်း (အသွားခရီး)<br>ပဲခူးကောလိပ်အနီး (အပြန်ခရီး)<br>(မိုင်တိုင် ၄၃/ ၃) |
| ၆။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | <u>ကျပ် ၁၁၃၁၈.၅၁ သန်း</u> (US$ ၆.၂၅ သန်းအပါအဝင်) |
| - ငွေပမာဏ | - | ၁၀၂၂၆.၀၀ |
| - စက်ပစ္စည်းကိရိယာများ | - | ၈၇.၅၁ (US$ ၆.၂၅ သန်း) |
| - အဆောက်အဦ | - | ၁၀၀၀.၀၀ |
| - ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | - | ၅.၀၀ |
| | - | US$ (၆.၂၅)သန်း တန်ဖိုးရှိ စက်ယန္တရားနှင့် လုပ်ငန်းသုံး ယာဉ်များပြည်ပမှတင်သွင်းမည်ဖြစ်ရာ Road Finisher, Off Road Tipper and Primemover များကို ကြိုတင် ခွင့်ပြုချက် ရယူ တင်သွင်းထားကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၇။ တည်ဆောက်ရေးကာလ | - | (၁-၄-၂၀၀၈) နေ့မှစ၍ (၃)နှစ် ဖြစ်ပါသည်။ |
| ၈။ လုပ်ငန်းသက်တမ်းကာလ | - | တည်ဆောက်ရေးကာလ (၃)နှစ် ပြီး နောက် နှစ် (၄၀) |
| ၉။ ဝင်ငွေ (တည်ဆောက်ရေးကာလပြီး လုပ်ငန်းသက်တမ်း (၇) နှစ် မြောက်ဝင်ငွေအားကောက် နှုတ် တင်ပြထားခြင်း ဖြစ်ပါ သည်။) | - | ကျပ် ၁၃၀၀.၆၇ သန်း |
| ၁၀။ အသားတင်အမြတ် (၇ နှစ် မြောက်) | - | ကျပ် ၃၇၈.၇၆ သန်း |
| ၁၁။ အရင်းကြေကာလ | - | (၂၆)နှစ် (၄)လ |
| ၁၂။ အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - | ၁ % |
| ၁၃။ နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် | - | |
| -ဝင်ငွေခွန် | - | ကျပ် ၁၆၂.၃၃ သန်း |
| -လမ်းတံတားဖြတ်သန်းခရငွေ | - | ကျပ် ၆၅.၀၃ သန်း |
| ၁၄။ လုပ်သားအင်အား | - | ပြည်တွင်း ၁၂၁ ဦး |
| | | ပြည်ပ ၄ ဦး (အချိန်ပိုင်း) |
| | | ၁၂၅ ဦး |



Yan – Man

နောက်ဆက်တွဲ (စ)

## ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သည့် (ပဲခူး - ညောင်လေးပင် ) လမ်းအပိုင်း နှင့် စပ်လျဉ်းသည့် အဓိကအချက်အလက်များ

| | | |
|---|---|---|
| ၁။ ကုမ္ပဏီအမည် | - | ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက် |
| ၂။ လုပ်ငန်းအဆိုပြုသူအမည် | - | ဦးဇော်ဝင်းထွန်း |
| ၃။ အဆိုပြုလုပ်ငန်း အမျိုးအစား | - | ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ ပဲခူး - ညောင်လေးပင် လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း |
| ၄။ လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - | ပဲခူး - ညောင်လေးပင် (၄၈ မိုင်)<br>(မိုင်တိုင် ၅၀/ ၀ မှ ၉၈/ ၀ အထိ) |
| ၅။ လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ | - | မိုင်တိုင် (၆၇/ ၁) ရှိ ရွာသစ်ကျေးရွာဂိတ်<br>မိုင်တိုင် (၆၁/ ၇) ရှိ ဘုရားကြီးကျေးရွာဂိတ်<br>(အသွား/ အပြန် ခရီးအတွက်) |
| ၆။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၁၃၅၀၂.၃၁ သန်း |
| - ငွေပမာဏ | - | ၂၆၀၁.၁၁ ( ချေးငွေ သန်း၂၀၀၀ အပါအဝင်) |
| - လမ်း | - | ၉၆၀၀.၀၀ |
| - တံတား | - | ၉၀၁.၂၀ |
| - အဆောက်အဦ | - | ၄၀၀.၀၀ |
| | - | နိုင်ငံတော်မှ ချေးငွေ ကျပ် (၂၀၀၀.၀၀) သန်းကို တစ်နှစ်အတိုး ၁၇ % ဖြင့် ရယူထားခြင်း ဖြစ်ပါသည်။ |
| ၇။ တည်ဆောက်ရေးကာလ | - | (၁-၁၀-၂၀၀၂) နေ့မှစ၍ (၃)နှစ် ဖြစ်ပါသည်။ |
| ၈။ လုပ်ငန်းသက်တမ်းကာလ | - | တည်ဆောက်ရေးကာလ (၃)နှစ် ပြီး နောက် နှစ် (၄၀) |
| ၉။ ဝင်ငွေ (တည်ဆောက်ရေးကာလပြီး လုပ်ငန်းသက်တမ်း (၇) နှစ် ခံမြောက်ဝင်ငွေအားကောက်နှုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - | ကျပ် ၃၁၅၅.၉၅ သန်း |

| | | | |
|---|---|---|---|
| ၁၀။ | အသားတင်အမြတ် (၇ နှစ် မြောက်) | - | ကျပ် ၆၆၀.၇၆ သန်း |
| ၁၁။ | အရင်းကြေကာလ | - | (၂၄) နှစ် |
| ၁၂။ | အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - | ၃.၆၅ % |
| ၁၃။ | နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် | - | |
| | -ဝင်ငွေခွန် | | ကျပ် ၂၈၃.၁၈ သန်း |
| | -လမ်းတံတားဖြတ်သန်းခရငွေ | - | ကျပ် ၁၅၇.၈၀ သန်း |
| ၁၄။ | လုပ်သားအင်အား | - | ပြည်တွင်း ၄၈၉ ဦး |
| | | | ပြည်ပ ၃ ဦး (အချိန်ပိုင်း) |
| | | | ၄၉၂ ဦး |

နောက်ဆက်တွဲ (ဆ)

**ဟိုက်စတားကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သည့် (ညှောင်လေးပင် - ဇေယျာဝတီ ) လမ်းအပိုင်း နှင့် စပ်လျဥ်းသည့် အဓိကအချက်အလက်များ**

| | | |
|---|---|---|
| ၁။ ကုမ္ပဏီအမည် | - | ဟိုက်စတား ကုမ္ပဏီလီမိတက် |
| ၂။ လုပ်ငန်းအဆိုပြုသူအမည် | - | ဦးရဲမြင့် |
| ၃။ အဆိုပြုလုပ်ငန်း အမျိုးအစား | - | ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး ၏ ညှောင်လေးပင် - ဇေယျာဝတီ လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း |
| ၄။ လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - | ညှောင်လေးပင် - ဇေယျာဝတီ (၄၈ မိုင်) (မိုင်တိုင် ၉၈/ ၀ မှ ၁၄၆/ ၀ အထိ) |
| ၅။ လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ | - | မိုင်တိုင် ၁၀၇/ ၄ - ၅ (အသွား/ အပြန် ခရီးအတွက်) |
| ၆။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၁၁၄၀၂.၇၀ သန်း (US$ ၁၄.၂၉ သန်း အပါအဝင်) |
| - ငွေပမာဏ | - | ၉၄၆၆.၆၀ (ချေးငွေ သန်း ၁၀၀၀ အပါအဝင်) |
| - လုပ်ငန်းသုံးလောင်စာဆီနှင့်ချောဆီများ | - | ၄၄.၁၁ (US$ ၇.၃၅ သန်း) |
| - စက်ပစ္စည်းကိရိယာများ | - | ၆၀၀.၇၄ (US$ ၆.၉၄ သန်း) |
| - အဆောက်အဦ (Plaza, Max toldo အပါအဝင်) | - | ၇၇၄.၂၂ |
| - လုပ်ငန်းသုံး မော်တော်ယာဥ်များ | - | ၁၇၂.၁၀ (ပြည်တွင်းမှဝယ်ယူခြင်း) |
| - ချေးငွေပေါ်အတိုး | - | ၁၇၀.၀၀ |
| - Infrastructure | - | ၁၂၇.၀၀ |
| - ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | - | ၄၆.၉၂ |
| | - | နိုင်ငံတော်မှ ချေးငွေ ကျပ် (၁၀၀၀.၀၀) သန်းကို တစ်နှစ် အတိုး ၁၇% ဖြင့် ရယူထားခြင်း ဖြစ်ပါသည်။ |

- လုပ်ငန်းသုံး လောင်စာဆီနှင့် ချောဆီများ တန်ဖိုး US$ (၇.၃၅) သန်းတွင် US$(၀.၄၆)သန်းဖိုးမှာတင်သွင်းပြီးဖြစ်ပါသည်။ ကျန် US$(၆.၈၉)သန်းဖိုး မှာ BOT သက်တမ်းကာလအတွင်း လမ်းများ တိုးတက် ကောင်းမွန်အောင် ပြုပြင်ရာတွင်လိုအပ်နေမည်ဖြစ်ပါ၍ ခန့်မှန်း တွက်ချက်တင်ပြထားခြင်းဖြစ်ကြောင်းကုမ္ပဏီမှတင်ပြထားပါသည်။
- စက်အရံပစ္စည်းများ US$ (၆.၉၄) သန်းဖိုးကို ပြည်ပမှ တင်သွင်းရန် ဖော်ပြထားပါသည်။ ယင်းပစ္စည်းများစာရင်းတွင် လူစီးယာဉ်များ (၁၅)စီး တန်ဖိုး (US$ ၀.၅၈ သန်း) ပါဝင် နေပါသည်။ ယင်းတို့ကို ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် သီးခြားတင်ပြခွင့်ပြုချက် ရယူမည် ဖြစ်ပါသည်။

| | |
|---|---|
| ၇။ တည်ဆောက်ရေးကာလ | - (၁-၁၀-၂၀၀၂) နေ့မှစ၍ (၃)နှစ် ဖြစ်ပါသည်။ |
| ၈။ လုပ်ငန်းသက်တမ်းကာလ | - တည်ဆောက်ရေးကာလ (၃)နှစ် ပြီး နောက် နှစ် (၄၀) |
| ၉။ ဝင်ငွေ (တည်ဆောက်ရေးကာလပြီး လုပ်ငန်းသက်တမ်း (၇) နှစ် မြောက်ဝင်ငွေအားကောက် နှုတ် တင်ပြထားခြင်း ဖြစ်ပါ သည်။) | - ကျပ် ၂၀၃၃.၂၆ သန်း |
| ၁၀။ အသားတင်အမြတ် (၇ နှစ် မြောက်) | - ကျပ် ၉၃.၉၁ သန်း |
| ၁၁။ အရင်းကြေကာလ | - (၃၀) နှစ် |
| ၁၂။ အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁.၆၉ % |
| ၁၃။ နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် | - |
| -ဝင်ငွေခွန် | ကျပ် ၄၀.၂၅ သန်း |
| -လမ်းတံတားဖြတ်သန်းခရငွေ | - ကျပ် ၁၀၁.၆၆ သန်း |
| ၁၄။ လုပ်သားအင်အား | - ပြည်တွင်း ၁၀၉ ဦး |

နောက်ဆက်တွဲ (၈)

**ကမ္ဘောဇလမ်းကြောင်းရှာဖွေရေး စက်မှုလုပ်ငန်းများကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သည့် (ဇေယျာဝတီ - ရေတာရှည်) လမ်းအပိုင်း နှင့် စပ်လျဉ်းသည့် အဓိကအချက်အလက်များ**

| | | |
|---|---|---|
| ၁။ ကုမ္ပဏီအမည် | - | ကမ္ဘောဇလမ်းကြောင်းရှာဖွေရေးစက်မှုလုပ်ငန်းများ လီမိတက် |
| ၂။ လုပ်ငန်းအဆိုပြုသူအမည် | - | ဒေါ်နန်းသန်းထွေး |
| ၃။ အဆိုပြုလုပ်ငန်း အမျိုးအစား | - | ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး ၏ (ဇေယျာဝတီ - ရေတာရှည်) လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း |
| ၄။ လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - | ဇေယျာဝတီ - ရေတာရှည် (၄၈ မိုင်) (မိုင်တိုင် ၁၄၆/ ၀ မှ ၁၉၄/ ၀ အထိ) |
| ၅။ လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ | - | မိုင်တိုင် ၁၇၁/ ၀ - ၁ ကြားရှိ ဟင်းငုတ်ပင်ရွာ၊ ကျောင်းရှစ်ဆယ်ကျေးရွာအုပ်စု၊ အုတ်တွင်းမြို့နယ်၊ (အသွားခရီးနှင့် အပြန်ခရီးအတွက်) |
| ၆။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၂၇၁၀၇.၆၂ သန်း (US$ ၉.၃၁ သန်း အပါအဝင်) |
| - ငွေပမာဏ | - | ၁၈၂၈၃.၇၃ (ချေးငွေ သန်း ၅၀၀၀ အပါအဝင်) |
| - လုပ်ငန်းသုံးပစ္စည်းများ | - | ၈၅၈၅.၉၃ (US$ ၇.၃၀ သန်း အပါအဝင်) |
| - အဆောက်အဦ | - | ၂၀၃.၅၀ |
| - စက်ပစ္စည်းကိရိယာ | - | ၃၄.၄၆ (US$ ၂.၀၁ သန်း အပါအဝင်) |
| | - | နိုင်ငံတော်မှ ချေးငွေ ကျပ် (၅၀၀၀.၀၀) သန်းကို တစ်နှစ် အတိုး ၁၇% ဖြင့် ရယူထားခြင်း ဖြစ်ပါသည်။ |
| | - | အမေရိကန်ဒေါ်လာ (၂.၀၁)သန်း တန်ဖိုးရှိ စက်ယန္တရား ပစ္စည်းများနှင့် အမေရိကန်ဒေါ်လာ (၇.၃၀)သန်း တန်ဖိုး ရှိ ကတ္တရာစေးနှင့် ဒီဇယ်များမှာ ပြည်ပမှ ဝယ်ယူပြီး တန်ဖိုး ဖြစ်ပါသည်။ |
| ၇။ တည်ဆောက်ရေးကာလ | - | (၁-၁၀-၂၀၀၂) နေ့မှစ၍ (၃)နှစ် ဖြစ်ပါသည်။ |

| | | |
|---|---|---|
| ၈။ လုပ်ငန်းသက်တမ်းကာလ | - | တည်ဆောက်ရေးကာလ (၃)နှစ် ပြီး နောက် နှစ် (၄၀) |
| ၉။ ဝင်ငွေ (တည်ဆောက်ရေးကာလပြီး လုပ်ငန်းသက်တမ်း (၇) နှစ် မြောက်ဝင်ငွေအားကောက် နှုတ် တင်ပြထားခြင်း ဖြစ်ပါ သည်။) | - | ကျပ် ၂၅၈၂.၂၁ သန်း |
| ၁၀။ အသားတင်အမြတ် (၇ နှစ် မြောက်) | - | ကျပ် ၇၃၇.၈၀ သန်း |
| ၁၁။ အရင်းကြေကာလ | - | (၁၇) နှစ် နှင့် (၈) လ |
| ၁၂။ အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - | ၄.၈၇ % |
| ၁၃။ နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် | - | |
| -ဝင်ငွေခွန် | | ကျပ် ၃၁၆.၂၀ သန်း |
| -လမ်းတံတားဖြတ်သန်းခရငွေ | - | ကျပ် ၁၂၉.၁၁ သန်း |
| ၁၄။ လုပ်သားအင်အား | - | ပြည်တွင်း ၂၄၅ ဦး |

နောက်ဆက်တွဲ (ဈ)

## အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သည့် (ရေတာရှည် - ပျဉ်းမနား) လမ်းအပိုင်း နှင့် စပ်လျဉ်းသည့် အဓိကအချက်အလက်များ

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - | ဦးထွန်းမြင့်နိုင် |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုးအစား | - | ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ ရေတာရှည် - ပျဉ်းမနား လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတားအသုံးပြုခကောက်ခံသည့်လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - | ရေတာရှည် - ပျဉ်းမနား (မိုင်တိုင် ၁၉၄/၀ မှ မိုင်တိုင် ၂၂၀/၂ အထိ)(၂၇ မိုင် ၂ဖာလုံ) နှင့် မြို့ရှောင်လမ်း (၁၂ မိုင် ၃.၅ ဖာလုံ) စုစုပေါင်း (၃၉)မိုင် (၅.၅)ဖာလုံ |
| ၅။ | လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ | - | မိုင်တိုင် (၁၉၈/ ၀) (အသွားခရီးနှင့် အပြန်ခရီးအတွက်) |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၂၀၆၉၇.၃၀ သန်း (US$ ၀.၄၃ သန်း အပါအဝင်) |
| | လမ်း | - | ၁၀၀၇၅.၆၀ (ချေးငွေ သန်း ၁၀၀၀ အပါအဝင်) |
| | တံတား | - | ၁၀၆၁၉.၁၀ |
| | ကုန်ကြမ်း | - | ၂.၆၀ (US$ ၀.၄၃ သန်း) |
| | | - | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သည့် နိုင်ငံတော်မှ ချေးငွေ ကျပ် (၁၀၀၀.၀၀) သန်း ကို တစ်နှစ်အတိုး ၁၇% ဖြင့် ရယူထားခြင်း ဖြစ်ပါသည်။ |
| | | - | အမေရိကန်ဒေါ်လာ (၀.၄၃) သန်းမှာ တံတား၏ သံမဏိ သံဘောင်ဖိုး ဖြစ်ပြီး တင်သွင်းသုံးစွဲပြီး ဖြစ်ပါသည်။ |
| ၇။ | တည်ဆောက်ရေးကာလ | - | (၁၂-၅-၂၀၀၇) နေ့မှ စ၍ (၃)နှစ် ဖြစ်ပါသည်။ |
| ၈။ | လုပ်ငန်းသက်တမ်းကာလ | - | တည်ဆောက်ရေး ကာလ (၃)နှစ် ပြီး နောက် နှစ် (၄၀) |

| | | | |
|---|---|---|---|
| ၉။ | ဝင်ငွေ (တည်ဆောက်ရေးကာလပြီး လုပ်ငန်းသက်တမ်း (၇) နှစ် မြောက်ဝင်ငွေအားကောက်နှုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - | ကျပ် ၁၄၈၅.၂၄ သန်း |
| ၁၀။ | အသားတင်အမြတ် (၇ နှစ် မြောက်) | - | ကျပ် ၂၅၄.၉၇ သန်း |
| ၁၁။ | အရင်းကြေကာလ | - | (၂၈)နှစ်၊ (၆)လ |
| ၁၂။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - | ၁.၅၁ % |
| ၁၃။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် | - | |
| | -ဝင်ငွေခွန် | | ကျပ် ၁၀၉.၂၇ သန်း |
| | -လမ်းတံတားဖြတ်သန်းခရငွေ | - | ကျပ် ၇၄.၂၆ သန်း |
| ၁၄။ | လုပ်သားအင်အား | - | ပြည်တွင်း ၃၁၄ ဦး |
| ၁၅။ | လွှဲပြောင်းခြင်း | - | အဆိုပါ လမ်းအပိုင်းသည် မူလက ဒဂုံအင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်က ဖောက်လုပ်ခဲ့သည့် လမ်းအပိုင်းဖြစ်ပြီး (၁၂-၅-၂၀၀၇) နေ့မှစ၍ ဒဂုံအင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်မှ အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်သို့ လွှဲပြောင်းပေးခဲ့ခြင်း ဖြစ်ပါသည်။ |

နောက်ဆက်တွဲ (ည)

## အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သည့် (ပျဉ်းမနား- ရမည်းသင်း) လမ်းအပိုင်းနှင့် စပ်လျဉ်းသည့် အဓိကအချက်အလက်များ

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - | ဦးထွန်းမြင့်နိုင် |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုးအစား | - | ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ ပျဉ်းမနား - ရမည်းသင်း လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတားအသုံးပြုခကောက်ခံသည့်လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - | ပျဉ်းမနား - ရမည်းသင်း (မိုင်တိုင် ၂၄၈/၀ မှ မိုင်တိုင် ၂၉၀/၀ အထိ)(၄၂)မိုင်နှင့် ပျဉ်းမနား မြို့ရှောင်လမ်း (၃ မိုင် ၄.၅ ဖာလုံ) စုစုပေါင်း (၄၅)မိုင် (၄.၅)ဖာလုံ |
| ၅။ | လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ | - | မိုင်တိုင် (၂၅၈/ ၄) (အသွားခရီးနှင့် အပြန်ခရီးအတွက်) |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၂၂၁၀၉.၃၀ သန်း (US$ ၀.၄၃ သန်း အပါအဝင်) |
| | လမ်း | - | ၁၈၅၅၁.၁၈ (ချေးငွေသန်း ၁၀၀၀ အပါအဝင်) |
| | တံတား | - | ၃၅၉၅.၅၂ |
| | ကုန်ကြမ်း | - | ၂.၆၀ (US$ ၀.၄၃ သန်း) |
| | | - | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သည့် နိုင်ငံတော်မှ ချေးငွေ ကျပ် (၁၀၀၀.၀၀) သန်း ကို တစ်နှစ်အတိုး ၁၇% ဖြင့် ရယူထားခြင်း ဖြစ်ပါသည်။ |
| | | - | အမေရိကန်ဒေါ်လာ (၀.၄၃) သန်းမှာ တံတား၏ သံမဏိ သံဘောင်ဖိုး ဖြစ်ပြီး တင်သွင်းသုံးစွဲပြီး ဖြစ်ပါသည်။ |
| ၇။ | တည်ဆောက်ရေးကာလ | - | (၁-၁၀-၂၀၀၂) နေ့မှ စ၍ (၃)နှစ် ဖြစ်ပါသည်။ |

| | | | |
|---|---|---|---|
| ၈။ | လုပ်ငန်းသက်တမ်းကာလ | - | တည်ဆောက်ရေးကာလ (၃)နှစ် ပြီး နောက် နှစ် (၄၀) |
| ၉။ | ဝင်ငွေ (တည်ဆောက်ရေးကာလပြီး လုပ်ငန်းသက်တမ်း (၇) နှစ် မြောက်ဝင်ငွေအားကောက်နှုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - | ကျပ် ၁၇၄၉.၆၃ သန်း |
| ၁၀။ | အသားတင်အမြတ် (၇ နှစ် မြောက်) | - | ကျပ် ၄၀၂.၆၇ သန်း |
| ၁၁။ | အရင်းကြေကာလ | - | (၁၁)နှစ်၊ (၈)လ |
| ၁၂။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - | ၁.၀၁ % |
| ၁၃။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် | - | |
| | - ဝင်ငွေခွန် | | ကျပ် ၁၇၂.၅၈ သန်း |
| | -လမ်းတံတားဖြတ်သန်းခရငွေ | - | ကျပ် ၈၇.၄၈ သန်း |
| ၁၄။ | လုပ်သားအင်အား | - | ပြည်တွင်း ၃၈၆ ဦး |

နောက်ဆက်တွဲ (၄)

## ယုဇန ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သည့် (ရမည်းသင်း - မိတ္ထီလာ) လမ်းအပိုင်း နှင့် စပ်လျဉ်းသည့် အဓိကအချက်အလက်များ

| | | |
|---|---|---|
| ၁။ ကုမ္ပဏီအမည် | - | ယုဇန ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၂။ လုပ်ငန်းအဆိုပြုသူအမည် | - | ဦးဌေးမြင့် |
| ၃။ အဆိုပြုလုပ်ငန်း အမျိုးအစား | - | ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ ရမည်းသင်း - မိတ္ထီလာ လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း |
| ၄။ လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - | ရမည်းသင်း - မိတ္ထီလာ (၄၈ မိုင်) (မိုင်တိုင် ၂၉၀/ ၀ မှ ၃၃၈/ ၀ အထိ) |
| ၅။ လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ | - | မိုင် ၂၉၆/ ၃ - ၄ (ဥသျှစ်ကုန်းကျေးရွာဂိတ်) (အသွား - အပြန် ခရီးအတွက်) |
| ၆။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၂၁၆၀၀.၀၀ သန်း |
| - ငွေပမာဏ | - | ၉၈၀၀.၀၀ (ချေးငွေ သန်း ၂၀၀၀ အပါအဝင်) |
| - စက်ပစ္စည်းကိရိယာ | - | ၂၀၀၀.၀၀ |
| - အဆောက်အဦ | - | ၅၀၀.၀၀ |
| - ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်း | - | ၃၀၀.၀၀ |
| - လုပ်ငန်းသုံးပစ္စည်း | - | ၉၀၀၀.၀၀ |
| | - | နိုင်ငံတော်မှ ချေးငွေ ကျပ်(၂၀၀၀.၀၀)သန်း ကို တစ်နှစ်လျှင် အတိုး ၁၇ % ဖြင့် ရယူထားခြင်း ဖြစ်ပါသည်။ |
| ၇။ တည်ဆောက်ရေးကာလ | - | (၁-၁၀-၂၀၀၂) နေ့မှစ၍ (၃)နှစ် ဖြစ်ပါသည်။ |
| ၈။ လုပ်ငန်းသက်တမ်းကာလ | - | တည်ဆောက်ရေးကာလ (၃)နှစ် ပြီး နောက် နှစ် (၄၀) |
| ၉။ ဝင်ငွေ (တည်ဆောက်ရေးကာလပြီး လုပ်ငန်းသက်တမ်း (၇) နှစ် မြောက်ဝင်ငွေအားကောက်နှုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - | ကျပ် ၃၁၃၁.၄၁ သန်း |

| | | |
|---|---|---|
| ၁၀။ အသားတင်အမြတ် (၇ နှစ် မြောက်) | - | ကျပ် ၈၅၃.၈၅ သန်း |
| ၁၁။ အရင်းကြေကာလ | - | (၂၆) နှစ် |
| ၁၂။ အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - | ၃ % |
| ၁၃။ နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် | - | |
| -ဝင်ငွေခွန် | | ကျပ် ၃၆၅.၉၄ သန်း |
| -လမ်းတံတားဖြတ်သန်းခရငွေ | - | ကျပ် ၁၅၆.၅၇ သန်း |
| ၁၄။ လုပ်သားအင်အား | - | ပြည်တွင်း ၃၀၀ ဦး |

နောက်ဆက်တွဲ (၄)

## သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သည့် (မိတ္ထီလာ - မန္တလေး) လမ်းအပိုင်း နှင့် စပ်လျဉ်းသည့် အဓိကအချက်အလက်များ

| | | |
|---|---|---|
| ၁။ ကုမ္ပဏီအမည် | - | သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၂။ လုပ်ငန်းအဆိုပြုသူအမည် | - | ဦးနေဝင်းကျော် |
| ၃။ အဆိုပြုလုပ်ငန်း အမျိုးအစား | - | ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ မိတ္ထီလာ - မန္တလေး လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း |
| ၄။ လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - | မိတ္ထီလာ - မန္တလေး (၈၇ မိုင် ၇ ဖာလုံ)<br>(မိုင်တိုင် ၃၃၈/ ၀ မှ ၄၂၂/ ၅ ထိ ၈၄ မိုင် ၅ ဖာလုံနှင့် ပုလိပ်မြို့ ရှောင်လမ်း ၃ မိုင် ၂ ဖာလုံ) |
| ၅။ လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ | - | <u>အသွားခရီး</u> (မန္တလေးမှ မိတ္ထီလာ)<br>မိုင် ၄၁၃/ ၄ မြို့သာကုန်းဂိတ်<br>မိုင် ၃၈၉/ ၇ လက်ညှိုးထိုးရွာဂိတ်<br><u>အပြန်ခရီး</u> (မိတ္ထီလာမှ မန္တလေး)<br>မိုင် ၃၄၉/ ၄ သပြေဝဂိတ်<br>မိုင် ၃၈၉/ ၇ လက်ညှိုးထိုးရွာဂိတ် |
| ၆။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | <u>ကျပ် ၅၅၇၇၅.၀၀ သန်း</u> |
| - ငွေပမာဏ | - | ၅၅၆၉၅.၀၀ |
| - အဆောက်အဦတန်ဖိုး | - | ၇၀.၀၀ |
| - ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်း တန်ဖိုး | - | ၁၀.၀၀ |
| | - | စက်၊ ယာဉ်ယန္တရားများကို ဝယ်ယူခြင်း မပြုဘဲ ငှားရမ်း အသုံးပြုမည် ဖြစ်ပါသည်။ |
| ၇။ တည်ဆောက်ရေးကာလ | - | (၁-၁၀-၂၀၀၂) နေ့မှစ၍ (၃)နှစ် ဖြစ်ပါသည်။ |
| ၈။ လုပ်ငန်းသက်တမ်းကာလ | - | တည်ဆောက်ရေးကာလ (၃)နှစ် ပြီး နောက် နှစ် (၄၀) |

| | | |
|---|---|---|
| ၉။ ဝင်ငွေ (တည်ဆောက်ရေးကာလပြီး လုပ်ငန်းသက်တမ်း (၇) နှစ် မြောက်ဝင်ငွေအားကောက်နှုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - | ကျပ် ၄၃၄၄.၆၄ သန်း |
| ၁၀။ အသားတင်အမြတ် (၇ နှစ် မြောက်) | - | ကျပ် ၂၂၂၇.၁၈ သန်း |
| ၁၁။ အရင်းကြေကာလ | - | (၃၁) နှစ် |
| ၁၂။ အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - | ၁.၄၆ % |
| ၁၃။ နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် | | |
| -ဝင်ငွေခွန် | - | ကျပ် ၉၅၄.၅၀ သန်း |
| -လမ်းတံတားဖြတ်သန်းခရငွေ | - | ကျပ် ၂၁၇.၂၃ သန်း |
| ၁၄။ လုပ်သားအင်အား | - | ပြည်တွင်း ၃၀၀ ဦး<br>ပြည်ပ ၉ ဦး (အချိန်ပိုင်း)<br>၃၀၉ ဦး |



Yan – Man

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

Fax -95-67-406333 ဖုန်း-၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅

စာအမှတ်၊ ရက-၁ / မ-၇၀၆/၂၀၀၉( ၁၅၄၂၈ )
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ အောက်တိုဘာလ ၂ ရက်၊

အကြောင်းအရာ။ ။ ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ လမ်းအပိုင်းများအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရန် အတွက် အဆိုပြု ချက်များ တင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက် ။ ။ ဆောက်လုပ်ရေး ဝန်ကြီးဌာန၏

(၁) (၂၈-၇-၂၀၀၉) ရက်စွဲပါစာအမှတ်၊ ၁/ ခွဲ- ၂/ ထွေ/ ၂၀၀၉ (ကုမ္ပဏီ) (စီ ၅၀၇၁) (ရမည်းသင်း-မိတ္ထီလာ)(ယုဇနကုမ္ပဏီ)
(၂) (၂၅-၈-၂၀၀၉) ရက်စွဲပါစာအမှတ်၊ ၁/ ခွဲ- ၂/ ထွေ/ ၂၀၀၉ (ကုမ္ပဏီ) (စီ ၅၉၆၁) (ပဲခူး-ညောင်လေးပင်)(ရွှေသံလွင်)
(၃) (၂၅-၈-၂၀၀၉) ရက်စွဲပါစာအမှတ်၊ ၁/ ခွဲ- ၂/ ထွေ/ ၂၀၀၉ (ကုမ္ပဏီ) (စီ ၅၉၆၂) (မန္တလေး-မိတ္ထီလာ)(သော်တာဝင်း)
(၄) (၂၇-၈-၂၀၀၉) ရက်စွဲပါစာအမှတ်၊ ၁/ ခွဲ- ၂/ထွေ/ ၂၀၀၉ (ကုမ္ပဏီ) (စီ ၆၀၂၅) (ထောက်ကြံ့ - ပဲခူး) ( မက်စ်(မြန်မာ) )
(၅) (၃၁-၈-၂၀၀၉) ရက်စွဲပါစာအမှတ်၊ ၁/ ခွဲ- ၂/ ထွေ/ ၂၀၀၉ (ကုမ္ပဏီ) (စီ ၆၁၀၄) (ဇေယျာဝတီ-ရေတာရှည်)(ကမ္ဘောဇ)
(၆) (၃၁-၈-၂၀၀၉) ရက်စွဲပါစာအမှတ်၊ ၁/ ခွဲ- ၂/ ထွေ/ ၂၀၀၉ (ကုမ္ပဏီ) (စီ ၆၀၆၈) (ညောင်လေးပင်-ဇေယျာဝတီ)(ဟိုက်စတား)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ လုပ်ငန်းအဆိုပြုလွှာ(၆)ခုကို ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ ရည်ညွှန်းချက်ပါ စာများဖြင့် တင်ပြခြင်း အား (၂၃-၉-၂၀၀၉) နေ့ တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၃၂/ ၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

Reply - Decision

၂။ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က) ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီးမှ အောက်ပါ လမ်းအပိုင်း(၆)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတားအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း အား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုရန်။

(၁) ထောက်ကြံ့ - ပဲခူးလမ်းအပိုင်း (၃၂ မိုင် ၆ဖာလုံ)
(မက်စ်(မြန်မာ)ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

(၂) ပဲခူး-ညောင်လေးပင် လမ်းအပိုင်း (၄၈ မိုင်)
(ရွှေသံလွင်အဝေးပြေးလမ်းမကြီးကုမ္ပဏီလီမိတက်)

(၃) ညောင်လေးပင် - ဇေယျာဝတီလမ်းအပိုင်း (၄၈ မိုင်)
(ဟိုက်စတား ကုမ္ပဏီလီမိတက်)

(၄) ဇေယျာဝတီ-ရေတာရှည်လမ်းအပိုင်း (၄၈ မိုင်)
(ကမ္ဘောဇလမ်းကြောင်းရှာဖွေရေးစက်မှုလုပ်ငန်းများလီမိတက်)

(၅) ရမည်းသင်း-မိတ္ထီလာ လမ်းအပိုင်း (၄၈ မိုင်)
(ယုဇနဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

(၆) မိတ္ထီလာ - မန္တလေး လမ်းအပိုင်း (၈၇ မိုင် ၇ ဖာလုံ)
(သော်တာဝင်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

(ခ) နောင်နှစ်တံတားများ လေလံပစ်သည့် အခါတွင် အသုံးပြု နိုင်ရန် အတွက် လမ်း၊ တံတား အသုံးပြုသည့် ကားစီးရေကို သေချာစွာကောက်ခိုင်းရန်။

(ဂ) ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီးပေါ်ရှိ တံတားများ၏ ပြုပြင် ထိန်းသိမ်း ရေး လုပ်ငန်း များကို သက်ဆိုင်ရာ ကုမ္ပဏီများအား တာဝန်ယူဆောင်ရွက်စေရန်။

၃။ အထက်ပါ အစည်းအဝေးဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန်နှင့် အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြနိုင်ရန် အတွက် အဆိုပြုလွှာ (၁၂)စုံကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy နှင့်အတူ ဤကော်မရှင်သို့ ပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီး သူရိန်ဇော်၊ အတွင်းရေးမှူး)

ဝန်ကြီးရုံး၊
ဆောက်လုပ်ရေးဝန်ကြီးဌာန။

မိတ္တူ-
(၁) ဦးဆောင်ညွှန်ကြားရေးမှူး၊
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။
(၂) ယုဇနဆောက်လုပ်ရေးကုမ္ပဏီလီမိတက်။
(၃) ရွှေသံလွင်အဝေးပြေးလမ်းမကြီးကုမ္ပဏီလီမိတက်။
(၄) သော်တာဝင်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်။
(၅) မက်စ်(မြန်မာ)ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်။
(၆) ကမ္ဘောဇလမ်းကြောင်းရှာဖွေရေးစက်မှုလုပ်ငန်းများလီမိတက်။
(၇) ဟိုက်စတား ကုမ္ပဏီလီမိတက်။
(၈) ရုံးလက်ခံ/ မျှောစာတွဲ။

လျှို့ဝှက်

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက- ၆(ခ)/မ- လမ်း/ ၂၀၀၉(၁၄၉၁၃ )၊

ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ စက်တင်ဘာလ ၁၈ ရက်။

## ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်

## အမှာစာ

အကြောင်းအရာ။ ။ ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ လမ်းအပိုင်းများအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ကို ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ရန် အတွက် အဆိုပြုချက်များ တင်ပြခြင်းကိစ္စ။

၁။ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီး၏လမ်းအပိုင်း စုစုပေါင်း(၈)ပိုင်းအား ကုမ္ပဏီ (၇)ခုမှ BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ကော်မရှင် ခွင့်ပြုမိန့် ရရှိရေး အတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

၂။ ယင်းအဆိုပြုချက်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးများတွင် တင်ပြပြီး အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် ( Asia World Co., Ltd. ) မှ ဆောင်ရွက်သည့် (ရေတာရှည် - ပျဉ်းမနား) နှင့် (ပျဉ်းမနား - ရမည်းသင်း) လမ်းအပိုင်း အဆိုပြုချက် (၂)ခု အား (၂၉-၇-၂၀၀၉) နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၂၄/ ၂၀၀၉) အစည်းအဝေး၌ တင်ပြ လမ်းညွှန်မှုခံယူခဲ့ပြီး ဖြစ်ပါသည်။ ယခုအခါ အောက်ပါ လမ်းအပိုင်း(၆)ပိုင်းအား ကုန်သွယ်မှု မူဝါဒကောင်စီသို့ ဆက်လက်တင်ပြပေးပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြလာခြင်း ဖြစ်ပါ သည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည်မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ထောက်ကြံ့ - ပဲခူး | ၃၂ မိုင်၊ ၆ ဖာလုံ | ကျပ် ၁၁၃၁၈.၅၁ သန်း (US$ ၆.၂၅ သန်း အပါအဝင်) | မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၂။ | ပဲခူး - ညောင်လေးပင် | ၄၈ မိုင် | ကျပ် ၁၃၅၀၂.၃၁ သန်း | ရွှေသံလွင်အဝေးပြေး လမ်းမကြီး ကုမ္ပဏီ လီမိတက် |
| ၃။ | ညောင်လေးပင် - ဇေယျဝတီ | ၄၈ မိုင် | ကျပ် ၁၁၄၀၂.၇၀ သန်း (US$ ၁၄.၂၉ သန်း အပါအဝင်) | ဟိုက်စတား ကုမ္ပဏီ လီမိတက် |
| ၄။ | ဇေယျဝတီ - ရေတာရှည် * | ၄၈ မိုင် | ကျပ် ၂၇၁၀၇.၆၂ သန်း (US$ ၉.၃၁ သန်း အပါအဝင် | ကမ္ဘောဇလမ်းကြောင်း ရှာဖွေရေး စက်မှု လုပ်ငန်းများလီမိတက် |
| ၅။ | ရမည်းသင်း - မိတ္ထီလာ | ၄၈ မိုင် | ကျပ် ၂၁၆၀၀.၀၀ သန်း | ယုဇန ဆောက်လုပ် ရေး ကုမ္ပဏီလီမိတက် |
| ၆။ | မိတ္ထီလာ - မန္တလေး | ၈၇ မိုင်၊ ၇ ဖာလုံ | ကျပ် ၅၅၇၇၅.၀၀ သန်း | သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

* အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် ( Asia World Co., Ltd. ) မှ တာဝန်ယူသည့် (ရေတာရှည် - ပျဉ်းမနား) နှင့် (ပျဉ်းမနား - ရမည်းသင်း) ၂ ပိုင်းကို ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြပြီး ဖြစ်ပါသည်။

၃။ ရန်ကုန်- မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ လမ်းအပိုင်းများနှင့် စပ်လျဉ်း၍ ကုန်သွယ်မှုမူဝါဒကောင်စီ ၏ (၂၄/၂၀၀၉) (၂၉-၇-၂၀၀၉) အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က) အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်မှ ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ (ရေတာရှည် - ပျဉ်းမနား) နှင့် (ပျဉ်းမနား - ရမည်းသင်း) လမ်းအပိုင်း တို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခများ ကောက်ခံရန်၊

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း (ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်ထိကုန်တင်ယာဉ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

(ခ) လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို ယင်းတံတား တည်ဆောက်သည့်ကုမ္ပဏီကသာ ကောက်ခံရန်နှင့် တံတားတည်ဆောက်သည့်ကုမ္ပဏီ မဟုတ်ပါက လေလံဖြင့်သာ ဆောင်ရွက်ရန်၊

(ဂ) "အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်သည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်လုပ်ကိုင်ခွင့်မပြုရဘဲ လုပ်ငန်း တစ်စိတ် တစ်ဒေသကိုမူ တစ်ဆင့်လုပ်ကိုင်ခွင့် ပြုနိုင်သည် " ကို ထည့်သွင်းဖော်ပြခြင်းမပြုရန်၊

၄။ ယခုတင်ပြသည့် အဆိုပြုလမ်းအပိုင်း (၆)ပိုင်းတွင် ကုန်သွယ်မှု မူဝါဒကောင်စီ ၏ (၂၄/၂၀၀၉)(၂၉-၇-၂၀၀၉) အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ တံတားခကောက်ခံသည့်ကိစ္စနှင့် လုပ်ငန်းတစ်ဆင့်ခံ လုပ်ကိုင်ခြင်း ကိစ္စများကို ပဋိညာဉ်စာချုပ် (မူကြမ်း) များတွင် ပြင်ဆင်တင်ပြထားပါသည်။ သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သည့် မိတ္ထီလာ - မန္တလေးလမ်းအပိုင်း၌ ကုမ္ပဏီမှ တံတား(၃)စင်း တည်ဆောက်ထားပြီး တံတားအသုံးပြုခ ကောက်ခံရငွေကို ကုမ္ပဏီ၏ ဝင်ငွေတွင် ထည့်သွင်းဖော်ပြထားပါသည်။ ကျန်လမ်းအပိုင်း (၅)ပိုင်းရှိ တံတားများမှာ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏တံတားများဖြစ်ပြီး ကုမ္ပဏီမှလေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း ဖြစ်ကြောင်း တင်ပြထားပါသည်။ လမ်းအပိုင်းအလိုက် (၁၈၀) ပေ အထက် တံတားအသုံးပြုခ ကောက်ခံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။ အသေးစိတ်စာရင်းကို နောက်ဆက်တွဲ (၁) ဖြင့် တင်ပြအပ်ပါသည်။

(၁၈၀) ပေ အထက် တံတားကြီးများ အသုံးပြု၍ ကောက်ခံမှု

| စဉ် | ကုမ္ပဏီအမည် | လမ်းအပိုင်း | ဌာနမှ တည်ဆောက်သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | ကုမ္ပဏီမှတည်ဆောက်သည့် တံတား (ကုမ္ပဏီမှ ကောက်ခံခြင်း) |
|---|---|---|---|---|
| ၁။ | မက်(စ်)မြန်မာ | ထောက်ကြံ့ - ပဲခူး | ၁ | - |
| ၂။ | ရွှေသံလွင် | ပဲခူး - ညောင်လေးပင် | ၆ | - |
| ၃။ | ဟိုက်စတား | ညောင်လေးပင်-ဇေယျာဝတီ | ၂ | - |
| ၄။ | ကမ္ဘောဇ | ဇေယျာဝတီ - ရေတာရှည်* | ၁ | - |
| ၅။ | ယုဇန | ရမည်းသင်း - မိတ္ထီလာ | ၂ | - |
| ၆။ | သော်တာဝင်း | မိတ္ထီလာ - မန္တလေး | ၅ | ၃ |

* အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်မှ တာဝန်ယူသည့် (ရေတာရှည် - ပျဉ်းမနား)နှင့် (ပျဉ်းမနား - ရမည်းသင်း) နှစ်ပိုင်းတွင် ဌာန တံတား (၁)စင်း ၊ကုမ္ပဏီ တံတား (၄)စင်း ရှိပါသည်။

(ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီးတွင် (၁၈၀)ပေ အထက်တံတားကြီး (၂၅)စင်း ရှိပါသည်။)

၅။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ် (မူကြမ်း) များပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လမ်း ဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေး ကာလ) မှာ (၃) နှစ် ဖြစ်ပါသည်။

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး လမ်း ဖောက်လုပ်သည့် လုပ်ငန်း ကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ် ဆောင်ရွက် ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက် ကာလ မှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။

(ဂ) အဆိုပြု ကုမ္ပဏီ များမှ လမ်းအသုံးပြုခနှုန်းများမှာ ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၄/၂၀၀၉) အစည်းအဝေးလမ်းညွှန်ချက် အတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

(ဃ) တံတား အသုံးပြုခများကို ပေ (၁၈၀) နှင့် အထက် ရှည်သည့် တံတားများ အတွက် နိုင်ငံတော် မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့် လည်းကောင်း၊ ကုမ္ပဏီ၏ ရန်ပုံငွေ ဖြင့် တည်ဆောက်သော တံတားများ အတွက် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ကုမ္ပဏီတို့ ညှိနှိုင်း သဘောတူညီသည့် နှုန်းထား ဖြင့် ကောက်ခံရမည် ဖြစ်ပါသည်။

(င) လမ်း၊ တံတား အသုံးပြုခရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရ မည် ဖြစ်ပါသည်။

| | | |
|---|---|---|
| (၁) | ပထမ (၃)နှစ် အတွက် | - ကင်းလွတ်ခွင့်ကာလ |
| (၂) | (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် | - ၅% ပေးသွင်းရန် |
| (၃) | (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် | - ၁၀% ပေးသွင်းရန် |
| (၄) | (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် | - ၁၅% ပေးသွင်းရန် |
| (၅) | (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် | - ၂၀% ပေးသွင်းရန် |

(စ) အဆိုပြုကုမ္ပဏီများသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလုပ်ကိုင်ခွင့် မပြုရပါ။

(ဆ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလနှစ်(၄၀)သို့မဟုတ်နောက်ထပ်တိုးမြှင့် ကာလ များ ပြီးဆုံးပါက အဆိုပါလမ်း နှင့် တံတားများ ၊ ဂိတ်များ နှင့် အဆောက်အဦ များ ကို ဆောက်လုပ် ပြီးစီးချိန်ကရှိနေသော ကောင်းမွန်သည့် အနေအထား အတိုင်း ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲ လွှဲပြောင်း ပေး ရမည် ဖြစ်ပါသည်။

၆။ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီး၏လမ်းအပိုင်း (၆)ပိုင်းအား ကုမ္ပဏီ(၆)ခုတို့မှ BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းနှင့် စပ်လျဉ်းသည့် စီးပွားရေးဆိုင်ရာ အသေးစိတ်အချက်အလက်များနှင့် လုပ်ငန်း အဆိုပြုလွှာများကို ပူးတွဲ တင်ပြအပ် ပါသည်။

၇။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့နှင့်အညီ အခွန်ကင်းလွတ် ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၈။ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီးမှ အောက်ပါလမ်းအပိုင်း (၆)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုရန် သဘောတူ - မတူ။

(က) ထောက်ကြံ့ - ပဲခူးလမ်းအပိုင်း (၃၂ မိုင် ၆ ဖာလုံ)
(မက်စ်(မြန်မာ) ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

(ခ) ပဲခူး - ညောင်လေးပင် လမ်းအပိုင်း (၄၈ မိုင်)
(ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီ လီမိတက်)

(ဂ) ညောင်လေးပင် - ဇေယျဝတီ လမ်းအပိုင်း (၄၈ မိုင်)
(ဟိုက်စတား ကုမ္ပဏီလီမိတက်)

(ဃ) ဇေယျဝတီ - ရေတာရှည် လမ်းအပိုင်း (၄၈ မိုင်)
(ကမ္ဘောဇလမ်းကြောင်းရှာဖွေရေးစက်မှု လုပ်ငန်းများ လီမိတက်)

(င) ရမည်းသင်း - မိတ္ထီလာ လမ်းအပိုင်း (၄၈ မိုင်)
(ယုဇန ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)

(စ) မိတ္ထီလာ - မန္တလေးလမ်းအပိုင်း (၈၇ မိုင် ၇ ဖာလုံ)
(သော်တာဝင်း ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

၉။ ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊

ကုန်သွယ်မှု မူဝါဒ ကောင်စီ

နောက်ဆက်တွဲ (၁)

## ရန်ကုန် - မန္တလေး လမ်းပေါ်ရှိ (၁၈၀) ပေ အထက် တံတားကြီးများ အသုံးပြု၍ ကောက်ခံမှု

| စဉ် | လမ်းအပိုင်း (ကုမ္ပဏီအမည်) | ဌာနမှ တည်ဆောက် သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း ) | ကုမ္ပဏီမှတည်ဆောက် သည့် တံတား (ကုမ္ပဏီမှကောက်ခံခြင်း) | မှတ်ချက် |
|---|---|---|---|---|
| ၁။ | ထောက်ကြံ့ - ပဲခူး (မက်စ် မြန်မာ) | ပဲခူးတံတား ၃၃၀' | - | သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊ |
| ၂။ | ပဲခူး - ညောင်လေးပင် (ရွှေသံလွင်) | ကောလိယတံတား ၁၉၆'<br>ကတုတ်တံတား ၁၉၆' | - | နှစ်စင်းပေါင်းတစ်စင်းစာသာ သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊ |
| | | ရဲနွယ်တံတား ၃၆၀'<br>ဘိုင်းဒါးတံတား ၃၀၀' | - | နှစ်စင်းပေါင်းတစ်စင်းစာသာ သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊ |
| | | ဒရယ်မီးတံတား ၁၈၀'<br>ခြောက်တန်တံတား ၂၁၀' | - | ကင်းလွတ်ခွင့်ပြုရန်၊ |
| ၃။ | ညောင်လေးပင် - ဇေယျာဝတီ (ဟိုက်စတား) | ကွင်းချောင်းတံတား ၃၀၀'<br>ဖြူးချောင်းတံတား ၄၆၈' | | သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊ |
| ၄ | ဇေယျာဝတီ - ရေတာရှည် (ကမ္ဘောဇ) | ခပေါင်းတံတား ၆၀၀' | | စီမံကိန်းဝင်တံတားဖြစ်၍ စီမံကိန်းနှုန်းဖြင့်ကောက်ခံရန်။ |
| ၅။ | ရေတာရှည် - ပျဉ်းမနား (အေးရှားဝါးလ်) | ဆွာတံတား ၂၇၀' | ရိုးပင်တံတား ၂၇၀' | သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊ |
| ၆။ | ပျဉ်းမနား - ရမည်းသင်း (အေးရှားဝါးလ်) | - | ငလိုက်တံတား ၃၀၀' | သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်၊ |
| | | | အဆုံတံတား ၁၉၀'<br>ဆင်သေတံတား ၂၁၀' | တံတားနှစ်စင်းကပ်နေ၍ တစ်စင်းစာသာ သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်။ |

| စဥ် | လမ်းအပိုင်း (ကုမ္ပဏီအမည်) | ဌာနမှ တည်ဆောက် သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း | ကုမ္ပဏီမှတည်ဆောက် သည့် တံတား (ကုမ္ပဏီမှကောက်ခံခြင်း) | မှတ်ချက် |
|---|---|---|---|---|
| ၇။ | ရမည်းသင်း -မိတ္ထီလာ (ယုဇန) | သူရဲချောင်းတံတား ၃၀၀' | | သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်။ |
| | | ကုန်းသာတံတား ၃၀၀' | | ကင်းလွတ်ခွင့်ပြုရန်။ |
| ၈။ | မိတ္ထီလာ - မန္တလေး (သော်တာဝင်း) | စမုံတံတား ၄၈၀'<br>မြစ်ငယ်တံတား ၈၄၀' | | သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်။ |
| | | ဝမ်းတွင်းဆည် တံတား ၂၁၀'<br>ယုဇနတံတား ၂၂၀'<br>ဇော်ဂျီတံတား ၂၁၀' | | ကင်းလွတ်ခွင့်ပြုရန်။ |
| | | | ပင်းချားတံတား ၂၂၄'<br>ဒါန်းချောင်းတံတား၃၃၀' | သာမန်တံတားနှုန်းဖြင့် ကောက်ခံရန်။ |
| | | | ရေဝန်းတံတား ၁၈၈' | ကင်းလွတ်ခွင့်ပြုရန်။ |

## ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၏ တံတား အသုံးပြုခနှုန်းထား
## (သာမန်တံတား)

| | | | |
|---|---|---|---|
| (က) | ဆိုင်ကယ်၊ မြင်းလှည်း၊ ထော်လာဂျီ | ၅ | ကျပ် |
| (ခ) | (၂)တန်အောက်ယာဥ်၊ အခြားယာဥ်များ၊ ကိုယ်ပိုင်ယာဥ်ငယ်များ | ၃၀ | ကျပ် |
| (ဂ) | ဟိုင်းလတ်ခရီးသယ်တင်ယာဥ် | ၄၀ | ကျပ် |
| (ဃ) | (၂)တန်အောက် ခရီးသယ်တင်ယာဥ် | ၄၀ | ကျပ် |
| (င) | (၂)တန်မှ (၅)တန်အောက်ယာဥ် | ၆၀ | ကျပ် |
| (စ) | (၅)တန်နှင့် အထက် ခရီးသယ်တင်ယာဥ် | ၁၀၀ | ကျပ် |
| (ဆ) | (၅)တန်နှင့်အထက် ယာဥ်ကြီး | ၁၅၀ | ကျပ် |
| (ဇ) | ထရပ်ကား (၂၀)တန်အထိ | ၁၅၀ | ကျပ် |

## ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၏ တံတား အသုံးပြုခနှုန်းထား
## (စီမံကိန်းဝင်တံတား)

| | | | |
|---|---|---|---|
| (က) | စက်ဘီး | ၅ | ကျပ် |
| (ခ) | ဆိုင်ကယ်၊ မြင်းလှည်း၊ | ၃၀ | ကျပ် |
| (ဂ) | ထော်လာဂျီ (ခရီးသည်/ကုန်မပါ) | ၅၀ | ကျပ် |
| (ဃ) | (၂)တန်အောက်ယာဥ်၊ အခြားယာဥ်များ၊ ကိုယ်ပိုင်ယာဥ်ငယ်များ | ၇၅ | ကျပ် |
| (င) | ဟိုင်းလတ်ခရီးသယ်တင်ယာဥ် | ၂၀၀ | ကျပ် |
| (စ) | (၂)တန်မှ (၅)တန်အောက်ယာဥ် | ၂၅၀ | ကျပ် |
| (ဆ) | (၅)တန်ရှိ ခရီးသည်တင်ယာဥ် | ၄၅၀ | ကျပ် |
| (ဇ) | (၅)တန်မှ (၁၀)တန်အောက် ကုန်တင်ယာဥ်ကြီး | ၇၀၀ | ကျပ် |
| (ဈ) | (၁၀)တန်မှ(၂၀)တန်အထိ ကုန်တင်ယာဥ်ကြီး | ၁၀၀၀ | ကျပ် |

မှတ်ချက်။ ။ (ကုန်+ ယာဥ်) ၂၀ တန်ထက်ကျော်သော ယာဥ်များအတွက် တန်ပိုကြေးအဖြစ် (၁)တန်လျှင် ၃၀၀ ကျပ် နှုန်း၊

ခရီးသည်(သို့မဟုတ်) ကုန်တင်ဆောင်လာသည့် ထော်လာဂျီယာဥ် ၂၀၀ ကျပ်နှုန်း

ပူးတွဲ

## မက်စ် (မြန်မာ) ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှဆောင်ရွက်သည့် ထောက်ကြံ့ - ပဲခူးလမ်းအပိုင်း နှင့် စပ်လျဉ်းသည့် အဓိကအချက်အလက်များ

၁။ ကုမ္ပဏီအမည် - မက်စ်(မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်

၂။ လုပ်ငန်းအဆိုပြုသူအမည် - ဦးဖိုးဇော် (ခ) ဦးဇော်ဇော်

၃။ အဆိုပြုလုပ်ငန်း အမျိုးအစား - ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး ၏ ထောက်ကြံ့ - ပဲခူးလမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း

၄။ လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) - ထောက်ကြံ့ - ပဲခူး (၃၂ မိုင် ၆ ဖာလုံ)<br>
ထောက်ကြံ့ - ဇရပ်ကွင်းအပိုင်း<br>
(မိုင်တိုင် ၁/ ၀ မှ ၁၄/ ၆ အထိ) (၁၃ မိုင် ၆ ဖာလုံ)<br>
ဇရပ်ကွင်း - ပဲခူး အပိုင်း<br>
(မိုင်တိုင် ၃၁/၀ မှ ၅၀/၀ ထိ) (၁၉ မိုင်)

၅။ လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ - ထောက်ကြံ့ ဂိတ်ဟောင်း (အသွားခရီး)<br>
ပဲခူးကောလိပ်အနီး (အပြန်ခရီး)<br>
(မိုင်တိုင် ၄၃/ ၃)

၆။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - <u>ကျပ် ၁၁၃၁၈.၅၁ သန်း</u> (US$ ၆.၂၅ သန်းအပါအဝင်)

| | | | |
|---|---|---|---|
| - ငွေပမာဏ | - | ၁၀၂၂၆.၀၀ | |
| - စက်ပစ္စည်းကိရိယာများ | - | ၈၇.၅၁ | (US$ ၆.၂၅ သန်း) |
| - အဆောက်အဦ | - | ၁၀၀၀.၀၀ | |
| - ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | - | ၅.၀၀ | |

- US$ (၆.၂၅)သန်း တန်ဖိုးရှိ စက်ယန္တရားနှင့် လုပ်ငန်းသုံး ယာဉ်များပြည်ပမှတင်သွင်းမည်ဖြစ်ရာ Road Finisher, Off Road Tipper and Primemover များကို ကြိုတင် ခွင့်ပြုချက် ရယူ တင်သွင်းထားကြောင်း တင်ပြထားပါသည်။

၇။ တည်ဆောက်ရေးကာလ - (၁-၄-၂၀၀၈) နေ့မှစ၍ (၃)နှစ် ဖြစ်ပါသည်။

| | | |
|---|---|---|
| ၈။ လုပ်ငန်းသက်တမ်းကာလ | - | တည်ဆောက်ရေးကာလ (၃)နှစ် ပြီး နောက် နှစ် (၄၀) |
| ၉။ ဝင်ငွေ<br>(တည်ဆောက်ရေးကာလပြီး<br>လုပ်ငန်းသက်တမ်း (၇) နှစ်<br>မြောက်ဝင်ငွေအားကောက် နှုတ်<br>တင်ပြထားခြင်း ဖြစ်ပါ သည်။) | - | ကျပ် ( ၁၃၀၀.၆၇ ) သန်း |
| ၁၀။ အသားတင်အမြတ်<br>(၇ နှစ် မြောက်) | - | ကျပ် ( ၃၇၈.၇၆ ) သန်း |
| ၁၁။ အရင်းကြေကာလ | - | (၂၆)နှစ် (၄)လ |
| ၁၂။ အရင်းအနှီးအပေါ် အကျိုး အမြတ်<br>ပြန်ပေါ်နှုန်း (IRR) | - | ၁ % |
| ၁၃။ နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် | - | |
| -ဝင်ငွေခွန် | - | ကျပ် ( ၁၆၂.၃၃ ) သန်း |
| -လမ်းတံတားဖြတ်သန်းခရငွေ | - | ကျပ် ( ၆၅.၀၃ ) သန်း |
| ၁၄။ လုပ်သားအင်အား | - | ပြည်တွင်း ၁၂၁ ဦး<br>ပြည်ပ ၄ ဦး (အချိန်ပိုင်း)<br>၁၂၅ ဦး |



Yan – Man TCmo

ပူးတွဲ

**ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သည့် (ပဲခူး - ညောင်လေးပင်) လမ်းအပိုင်း နှင့် စပ်လျဉ်းသည့် အဓိကအချက်အလက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဇော်ဝင်းထွန်း |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုးအစား | - ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ ပဲခူး - ညောင်လေးပင် လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - ပဲခူး - ညောင်လေးပင် (၄၈ မိုင်)<br>(မိုင်တိုင် ၅၀/ ၀ မှ ၉၈/ ၀ အထိ) |
| ၅။ | လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ | - မိုင်တိုင် (၆၇/ ၁) ရှိ ရွာသစ်ကျေးရွာဂိတ်<br>မိုင်တိုင် (၆၁/ ၇) ရှိ ဘုရားကြီးကျေးရွာဂိတ်<br>(အသွား/ အပြန် ခရီးအတွက်) |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၃၅၀၂.၃၁ သန်း |
| | - ငွေပမာဏ | - ၂၆၀၁.၁၁ ( ချေးငွေ သန်း၂၀၀၀ အပါအဝင်) |
| | - လမ်း | - ၉၆၀၀.၀၀ |
| | - တံတား | - ၉၀၁.၂၀ |
| | - အဆောက်အဦ | - ၄၀၀.၀၀ |
| | | - နိုင်ငံတော်မှ ချေးငွေ ကျပ် (၂၀၀၀.၀၀) သန်းကို တစ်နှစ်အတိုး ၁၇ % ဖြင့် ရယူထားခြင်း ဖြစ်ပါသည်။ |
| ၇။ | တည်ဆောက်ရေးကာလ | - (၁-၁၀-၂၀၀၂) နေ့မှစ၍ (၃)နှစ် ဖြစ်ပါသည်။ |
| ၈။ | လုပ်ငန်းသက်တမ်းကာလ | - တည်ဆောက်ရေးကာလ (၃)နှစ် ပြီး နောက် နှစ် (၄၀) |
| ၉။ | ဝင်ငွေ<br>(တည်ဆောက်ရေးကာလပြီး လုပ်ငန်းသက်တမ်း (၇) နှစ် မြောက်ဝင်ငွေအားကောက်နှုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - ကျပ် ( ၃၁၅၅.၉၅ ) သန်း |

| | |
|---|---|
| ၁၀။ အသားတင်အမြတ် (၇ နှစ် မြောက်) | - ကျပ် ( ၆၆၀.၇၆ ) သန်း |
| ၁၁။ အရင်းကြေကာလ | - (၂၄) နှစ် |
| ၁၂။ အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - ၃.၆၅ % |
| ၁၃။ နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် | - |
| -ဝင်ငွေခွန် | ကျပ် ( ၂၈၃.၁၈ ) သန်း |
| -လမ်းတံတားဖြတ်သန်းခရငွေ | - ကျပ် ( ၁၅၇.၈၀ ) သန်း |
| ၁၄။ လုပ်သားအင်အား | - ပြည်တွင်း ၄၈၉ ဦး<br>ပြည်ပ ၃ ဦး (အချိန်ပိုင်း)<br>၄၉၂ ဦး |

ပူးတွဲ

## ဟိုက်စတားကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သည့် (ညောင်လေးပင် - ဇေယျာဝတီ) လမ်းအပိုင်း နှင့် စပ်လျဥ်းသည့် အဓိကအချက်အလက်များ

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - | ဟိုက်စတား ကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - | ဦးရဲမြင့် |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုးအစား | - | ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး ၏ ညောင်လေးပင် - ဇေယျာဝတီ လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - | ညောင်လေးပင် - ဇေယျာဝတီ (၄၈ မိုင်) (မိုင်တိုင် ၉၈/ ၀ မှ ၁၄၆/ ၀ အထိ) |
| ၅။ | လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ | - | မိုင်တိုင် ၁၀၇/ ၄ - ၅ (အသွား/ အပြန် ခရီးအတွက်) |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၁၁၄၀၂.၇၀ သန်း (US$ ၁၄.၂၉ သန်း အပါအဝင်) |
| | - ငွေပမာဏ | - | ၉၄၆၆.၆၀ |
| | - လုပ်ငန်းသုံးလောင်စာဆီနှင့်ချောဆီများ | - | ၄၄.၁၀ (US$ ၇.၃၅ သန်း) |
| | - စက်ပစ္စည်းကိရိယာများ | - | ၆၀၁.၇၄ (US$ ၆.၉၄ သန်း) |
| | - အဆောက်အဦ (Plaza, Max toldo အပါအဝင်) | - | ၇၇၄.၂၂ |
| | - လုပ်ငန်းသုံး မော်တော်ယာဥ်များ | - | ၁၇၂.၁၀ (ပြည်တွင်းမှဝယ်ယူခြင်း) |
| | - ချေးငွေပေါ်အတိုး | - | ၁၇၀.၀၀ |
| | - Infrastructure | - | ၁၂၇.၀၀ |
| | - ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | - | ၄၆.၉၂ |
| | | - | နိုင်ငံတော်မှ ချေးငွေ ကျပ် (၁၀၀၀.၀၀) သန်းကို တစ်နှစ် အတိုး ၁၇% ဖြင့် ရယူထားခြင်း ဖြစ်ပါသည်။ |

- လုပ်ငန်းသုံး လောင်စာဆီနှင့် ချောဆီများ တန်ဖိုး US$ (၇.၃၅) သန်းတွင် US$(၀.၄၆)သန်းဖိုးမှာတင်သွင်းပြီးဖြစ်ပါသည်။ ကျန် US$(၆.၈၉)သန်းဖိုး မှာ BOT သက်တမ်းကာလအတွင်း လမ်းများ တိုးတက် ကောင်းမွန်အောင် ပြုပြင်ရာတွင်လိုအပ်နေမည်ဖြစ်ပါ၍ ခန့်မှန်း တွက်ချက်တင်ပြထားခြင်းဖြစ်ကြောင်းကုမ္ပဏီမှတင်ပြထားပါသည်။
- စက်အရံပစ္စည်းများ US$ (၆.၉၄) သန်းဖိုးကို ပြည်ပမှ တင်သွင်းရန် ဖော်ပြထားပါသည်။ ယင်းပစ္စည်းများစာရင်းတွင် လူစီးယာဉ်များ (၁၅)စီး တန်ဖိုး (US$ ၀.၅၈ သန်း) ပါဝင် နေပါသည်။ ယင်းတို့ကို ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် သီးခြားတင်ပြခွင့်ပြုချက် ရယူမည် ဖြစ်ပါသည်။

| | | |
|---|---|---|
| ၇။ တည်ဆောက်ရေးကာလ | - | (၁-၁၀-၂၀၀၂) နေ့မှစ၍ (၃)နှစ် ဖြစ်ပါသည်။ |
| ၈။ လုပ်ငန်းသက်တမ်းကာလ | - | တည်ဆောက်ရေးကာလ (၃)နှစ် ပြီး နောက် နှစ် (၄၀) |
| ၉။ ဝင်ငွေ (တည်ဆောက်ရေးကာလပြီး လုပ်ငန်းသက်တမ်း (၇) နှစ် မြောက်ဝင်ငွေအားကောက် နှုတ် တင်ပြထားခြင်း ဖြစ်ပါ သည်။) | - | ကျပ် ( ၂၀၃၃.၂၆ ) သန်း |
| ၁၀။ အသားတင်အမြတ် (၇ နှစ် မြောက်) | - | ကျပ် ( ၉၃.၉၁ ) သန်း |
| ၁၁။ အရင်းကြေကာလ | - | (၃၀) နှစ် |
| ၁၂။ အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - | ၁.၆၉ % |
| ၁၃။ နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် | - | |
| -ဝင်ငွေခွန် | | ကျပ် ( ၄၀.၂၅ ) သန်း |
| -လမ်းတံတားဖြတ်သန်းခရငွေ | - | ကျပ် ( ၁၀၁.၆၆ ) သန်း |
| ၁၄။ လုပ်သားအင်အား | - | ပြည်တွင်း ၁၀၉ ဦး |

ပူးတွဲ

**ကမ္ဘောဇလမ်းကြောင်းရှာဖွေရေး စက်မှုလုပ်ငန်းများကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သည့် (ဇေယျဝတီ - ရေတာရှည်) လမ်းအပိုင်း နှင့် စပ်လျဉ်းသည့် အဓိကအချက်အလက်များ**

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - | ကမ္ဘောဇလမ်းကြောင်းရှာဖွေရေးစက်မှုလုပ်ငန်းများ လီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - | ဒေါ်နန်းသန်းထွေး |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုးအစား | - | ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး ၏ (ဇေယျဝတီ - ရေတာရှည်) လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - | ဇေယျဝတီ - ရေတာရှည် (၄၈ မိုင်) (မိုင်တိုင် ၁၄၆/ ၀ မှ ၁၉၄/ ၀ အထိ) |
| ၅။ | လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ | - | မိုင်တိုင် ၁၇၁/ ၀ - ၁ ကြားရှိ ဟင်းငုတ်ပင်ရွာ၊ ကျောင်းရှစ်ဆယ်ကျေးရွာအုပ်စု၊ အုတ်တွင်းမြို့နယ်၊ (အသွားခရီးနှင့် အပြန်ခရီးအတွက်) |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၂၇၁၀၇.၆၂ သန်း (US$ ၉.၃၁ သန်း အပါအဝင်) |
| | - ငွေပမာဏ | - | ၁၈၂၈၃.၇၃ (ချေးငွေ သန်း ၅၀၀၀ အပါအဝင်) |
| | - လုပ်ငန်းသုံးပစ္စည်းများ | - | ၈၅၈၅.၉၃ (US$ ၇.၃၀ သန်း အပါအဝင်) |
| | - အဆောက်အဦ | - | ၂၀၃.၅၀ |
| | - စက်ပစ္စည်းကိရိယာ | - | ၃၄.၄၆ (US$ ၂.၀၁ သန်း အပါအဝင်) |
| | | - | နိုင်ငံတော်မှ ချေးငွေ ကျပ် (၅၀၀၀.၀၀) သန်းကို တစ်နှစ် အတိုး ၁၇% ဖြင့် ရယူထားခြင်း ဖြစ်ပါသည်။ |
| | | - | အမေရိကန်ဒေါ်လာ (၂.၀၁)သန်း တန်ဖိုးရှိ စက်ယန္တရားပစ္စည်းများနှင့် အမေရိကန်ဒေါ်လာ (၇.၃၀)သန်း တန်ဖိုးရှိ ကတ္တရာစေးနှင့် ဒီဇယ်များမှာ ပြည်ပမှ ဝယ်ယူပြီး တန်ဖိုး ဖြစ်ပါသည်။ |
| ၇။ | တည်ဆောက်ရေးကာလ | - | (၁-၁၀-၂၀၀၂) နေ့မှစ၍ (၃)နှစ် ဖြစ်ပါသည်။ |

| | | |
|---|---|---|
| ၈။ လုပ်ငန်းသက်တမ်းကာလ | - | တည်ဆောက်ရေးကာလ (၃)နှစ် ပြီး နောက် နှစ် (၄၀) |
| ၉။ ဝင်ငွေ (တည်ဆောက်ရေးကာလပြီး လုပ်ငန်းသက်တမ်း (၇) နှစ် မြောက်ဝင်ငွေအားကောက် နှုတ် တင်ပြထားခြင်း ဖြစ်ပါ သည်။) | - | ကျပ် ( ၂၅၈၂.၂၁ ) သန်း |
| ၁၀။ အသားတင်အမြတ် (၇ နှစ် မြောက်) | - | ကျပ် ( ၇၃၇.၈၀ ) သန်း |
| ၁၁။ အရင်းကြေကာလ | - | (၁၇) နှစ် နှင့် (၈) လ |
| ၁၂။ အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - | ၄.၈၇ % |
| ၁၃။ နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် | - | |
| -ဝင်ငွေခွန် | | ကျပ် ( ၃၁၆.၂၀ ) သန်း |
| -လမ်းတံတားဖြတ်သန်းခရငွေ | - | ကျပ် ( ၁၂၉.၁၁ ) သန်း |
| ၁၄။ လုပ်သားအင်အား | - | ပြည်တွင်း ၂၄၅ ဦး |

ပူးတွဲ

## ယုဇန ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သည့် (ရမည်းသင်း - မိတ္ထီလာ) လမ်းအပိုင်း နှင့် စပ်လျဉ်းသည့် အဓိကအချက်အလက်များ

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - | ယုဇန ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - | ဦးဌေးမြင့် |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုးအစား | - | ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ ရမည်းသင်း - မိတ္ထီလာ လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - | ရမည်းသင်း - မိတ္ထီလာ (၄၈ မိုင်) (မိုင်တိုင် ၂၉၀/ ၀ မှ ၃၃၈/ ၀ အထိ) |
| ၅။ | လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ | - | မိုင် ၂၉၆/ ၃ - ၄ (ဥသျှစ်ကုန်းကျေးရွာဂိတ်) (အသွား - အပြန် ခရီးအတွက်) |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၂၁၆၀၀.၀၀ သန်း |
| | - ငွေပမာဏ | - | ၉၈၀၀.၀၀ (ချေးငွေ သန်း ၂၀၀၀ အပါအဝင်) |
| | - စက်ပစ္စည်းကိရိယာ | - | ၂၀၀၀.၀၀ |
| | - အဆောက်အဦ | - | ၅၀၀.၀၀ |
| | - ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်း | - | ၃၀၀.၀၀ |
| | - လုပ်ငန်းသုံးပစ္စည်း | - | ၉၀၀၀.၀၀ |
| | | - | နိုင်ငံတော်မှ ချေးငွေ ကျပ်(၂၀၀၀.၀၀)သန်း ကို တစ်နှစ်လျှင် အတိုး ၁၇ % ဖြင့် ရယူထားခြင်း ဖြစ်ပါသည်။ |
| ၇။ | တည်ဆောက်ရေးကာလ | - | (၁-၁၀-၂၀၀၂) နေ့မှစ၍ (၃)နှစ် ဖြစ်ပါသည်။ |
| ၈။ | လုပ်ငန်းသက်တမ်းကာလ | - | တည်ဆောက်ရေးကာလ (၃)နှစ် ပြီး နောက် နှစ် (၄၀) |
| ၉။ | ဝင်ငွေ (တည်ဆောက်ရေးကာလပြီး လုပ်ငန်းသက်တမ်း (၇) နှစ် မြောက်ဝင်ငွေအားကောက်နှုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - | ကျပ် ( ၃၁၃၁.၄၁ ) သန်း |

| | | |
|---|---|---|
| ၁၀။ အသားတင်အမြတ် (၇ နှစ် မြောက်) | - | ကျပ် ( ၈၅၃.၈၅ ) သန်း |
| ၁၁။ အရင်းကြေကာလ | - | (၂၆) နှစ် |
| ၁၂။ အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - | ၃ % |
| ၁၃။ နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် | - | |
| -ဝင်ငွေခွန် | | ကျပ် ( ၃၆၅.၉၄ ) သန်း |
| -လမ်းတံတားဖြတ်သန်းခရငွေ | - | ကျပ် ( ၁၅၆.၅၇ ) သန်း |
| ၁၄။ လုပ်သားအင်အား | - | ပြည်တွင်း ၃၀၀ ဦး |

ပူးတွဲ

**သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သည့်**
**(မိတ္ထီလာ - မန္တလေး) လမ်းအပိုင်း နှင့် စပ်လျဉ်းသည့် အဓိကအချက်အလက်များ**

| | | |
|---|---|---|
| ၁။ ကုမ္ပဏီအမည် | - | သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၂။ လုပ်ငန်းအဆိုပြုသူအမည် | - | ဦးနေဝင်းကျော် |
| ၃။ အဆိုပြုလုပ်ငန်း အမျိုးအစား | - | ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ မိတ္ထီလာ - မန္တလေး လမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း |
| ၄။ လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - | မိတ္ထီလာ - မန္တလေး (၈၇ မိုင် ၇ ဖာလုံ) (မိုင်တိုင် ၃၃၈/ ၀ မှ ၄၂၂/ ၅ ထိ ၈၄ မိုင် ၅ ဖာလုံနှင့် ပုလိပ်မြို့ ရှောင်လမ်း ၃ မိုင် ၂ ဖာလုံ) |
| ၅။ လမ်းတံတားအသုံးပြုခ ကောက်ခံမည့် ဂိတ် တည်နေရာ | - | <u>အသွားခရီး</u> (မန္တလေးမှ မိတ္ထီလာ)<br>မိုင် ၄၁၃/ ၄ မြို့သာကုန်းဂိတ်<br>မိုင် ၃၈၉/ ၇ လက်ညှိုးထိုးရွာဂိတ်<br><u>အပြန်ခရီး</u> (မိတ္ထီလာမှ မန္တလေး)<br>မိုင် ၃၄၉/ ၄ သပြေဝဂိတ်<br>မိုင် ၃၈၉/ ၇ လက်ညှိုးထိုးရွာဂိတ် |
| ၆။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | <u>ကျပ် ၅၅၇၇၅.၀၀ သန်း</u> |
| - ငွေပမာဏ | - | ၅၅၆၉၅.၀၀ |
| - အဆောက်အဦတန်ဖိုး | - | ၇၀.၀၀ |
| - ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်း တန်ဖိုး | - | ၁၀.၀၀ |
| | - | စက်၊ ယာဉ်ယန္တရားများကို ဝယ်ယူခြင်း မပြုဘဲ ငှားရမ်း အသုံးပြုမည် ဖြစ်ပါသည်။ |
| ၇။ တည်ဆောက်ရေးကာလ | - | (၁-၁၀-၂၀၀၂) နေ့မှစ၍ (၃)နှစ် ဖြစ်ပါသည်။ |
| ၈။ လုပ်ငန်းသက်တမ်းကာလ | - | တည်ဆောက်ရေးကာလ (၃)နှစ် ပြီး နောက် နှစ် (၄၀) |

| | | |
|---|---|---|
| ၉။ ဝင်ငွေ (တည်ဆောက်ရေးကာလပြီး လုပ်ငန်းသက်တမ်း (၇) နှစ် မြောက်ဝင်ငွေအားကောက်နှုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - | ကျပ် ( ၄၃၄၄.၆၄ ) သန်း |
| ၁၀။ အသားတင်အမြတ် (၇ နှစ် မြောက်) | - | ကျပ် ( ၂၂၂၇.၁၈ ) သန်း |
| ၁၁။ အရင်းကြေကာလ | - | (၃၁) နှစ် |
| ၁၂။ အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - | ၁.၄၆ % |
| ၁၃။ နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် | | |
| -ဝင်ငွေခွန် | - | ကျပ် ( ၉၅၄.၅၀ ) သန်း |
| -လမ်းတံတားဖြတ်သန်းခရငွေ | - | ကျပ် ( ၂၁၇.၂၃ ) သန်း |
| ၁၄။ လုပ်သားအင်အား | - | ပြည်တွင်း ၃၀၀ ဦး |
| | | ပြည်ပ ၉ ဦး (အချိန်ပိုင်း) |
| | | ၃၀၉ ဦး |

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | မက်စ်(မြန်မာ)ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် [ Max (Myanmar) Construction Co., Ltd.] | ၁။ ဦးဇော်ဇော်(ခ) ဦးဖိုးဇော် အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်(၁၉-စီ)၊ ကုက္ကိုင်းရိပ်သာလမ်း၊ ရွှေတောင်ကြား(၂)ရပ်ကွက်၊ ဗဟန်းမြို့နယ် ၊ရန်ကုန်မြို့။ |
| | | ၂။ ဦးစိုးတင့် ဒါရိုက်တာ | အမှတ် (၁၉) ၊ ပွဲစားတန်း လမ်း၊ ကြည့်မြင်တိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဦးအုန်းကျော်(ခ) ဦးအေးသွင် ဒါရိုက်တာ | အမှတ်(၆)၊ ရှင်စောပုလမ်း၊ စမ်းချောင်း မြို့နယ်၊ရန်ကုန်မြို့။ |
| | | ၄။ ဦးအောင်မျိုးမြင့် ဒါရိုက်တာ | အမှတ်(၅၂)၊ တတိယထပ် ၊ (၁၆၅)လမ်း၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီ၏တယ်လီဖုန်းအမှတ်/ ဖက်စ်နံပါတ် | - ၀၁-၅၀၀၁၂၃၊ ၀၁-၅၁၃၀၀၉၊ ၀၁-၅၀၁၆၇၇၊ ၀၁- ၅၂၄၀၀၆ |
| ၂။ | ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ | - အမှတ်(၁)၊ ရွာမကွေ့ ၊ ဘုရင့်နောင်လမ်း၊ အမှတ်(၂)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ | ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ် အမည်/ရာထူး | - ဦးဇော်ဇော်(ခ) ဦးဖိုးဇော် (အုပ်ချုပ်မှုဒါရိုက်တာ) |
| ၄။ | ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ | - လမ်းဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံသည့်လုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ | - ၉၅၈/၂၀၀၅-၂၀၀၆ (၁၁ -၈ -၂၀၀၅) |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံး မည့်နေ့စွဲ | - ( ၁၇-၁၂ -၂၀၀၉ ) |

**ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း**

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင် များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ရွှေသံလွင်အဝေးပြေး လမ်းမကြီးကုမ္ပဏီလီမိတက် (Shwe Thanlwin Highway Co., Ltd.) | ၁။ ဦးကျော်ဝင်း ဥက္ကဋ္ဌ | အမှတ်(၁၂၆)၊(၂၀)လမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဦးဇော်ဝင်းထွန်း အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်(၂၅/၂၆)၊ (၁)ရပ်ကွက်၊ သီရိမွန် ပလာဇာ၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဦးမိုးကျော်သူ ဒါရိုက်တာ | အမှတ်(၂၁၄)၊ ဆိပ်ကမ်းသာလမ်း၊ ကျောက်တံတားမြို့နယ်၊ရန်ကုန်မြို့။ |
| | | ၄။ ဦးသိန်းဝင်း ဒါရိုက်တာ | အမှတ်(၁၃၁)၊ (၂၀) လမ်း၊ (၅) ရပ်ကွက်၊ လသာမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၅။ ဒေါ်သန်းစိန်(ခ)ဒေါ်နီ ဒါရိုက်တာ | အမှတ်(၁၅၂/၁၅၄)၊ (၁၉)လမ်း၊ (၄)ရပ်ကွက်၊လသာမြို့နယ်၊ရန်ကုန်မြို့။ |
| | | ၆။ ဒေါ်စန္ဒာဝင်း ဒါရိုက်တာ | အမှတ်(၁၂၆)၊ (၂၀)လမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၇။ ဒေါ်မြင့်မြင့်ဝင်း ဒါရိုက်တာ | အမှတ်(၁၂၆)၊ (၂၀)လမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၈။ နန်းမောက်လောဝ်ဆိုင် (ခ) စမ်းစမ်းအေး ဒါရိုက်တာ | အမှတ်( အိုင်/၁၀)၊ စပယ်လမ်း၊ ပန်းလှိုင်အိမ်ရာ၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၉။ ဒေါ်ရင်ရင်ဝင်း ဒါရိုက်တာ | အမှတ်(၁၂၆)၊ (၂၀)လမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။ |

၁။ ကုမ္ပဏီ၏တယ်လီဖုန်းအမှတ်/ ဖက်စ်နံပါတ် - ၀၁-၂၀၀၃၀၉၊ ၀၁-၂၀၀၃၁၀၊၀၁-၂၀၀၃၁၃၊ ၀၁-၂၉၉၁၂၃ ။

၂။ ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ - အမှတ်(၂၆၂)၊ ရာဇာဓိရာဇ်အိမ်ရာ၊ အောက်ပုစွန်တောင်လမ်း၊ ရန်ကုန်မြို့။

၃။ ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ် အမည်/ရာထူး - ဦးဇော်ဝင်းထွန်း(အုပ်ချုပ်မှုဒါရိုက်တာ)
၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ - လမ်းဖောက်လုပ်၍ လမ်းအသုံးပြုခကောက်ခံသည့်လုပ်ငန်း
၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ - ၇၃ / ၂၀၀၈-၂၀၀၉ (၉ - ၄ -၂၀၀၈)
၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးမည့်နေ့စွဲ - ( ၈ -၄ -၂၀၁၀ )

**ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း**

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ဟိုက်စတားကုမ္ပဏီလီမိတက် (Hi Star Co., Ltd.) | ၁။ ဦးအိုက်ထွန်း ဥက္ကဋ္ဌ | အမှတ်(၁၄)၊ ရေဗော်ဗျူးဥယျာဉ်အိမ်ရာ၊ ဆင်မင်းရပ်ကွက်၊ အလုံ မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဒေါက်တာစိုင်းစံထွန်း ဒုတိယဥက္ကဋ္ဌ | အမှတ်(၂၉၁) ၊ ရွှေတိဂုံဘုရားလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဦးမြင့်သိန်း ဒါရိုက်တာ | အမှတ်(၂၈)၊ (၁၇)လမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၄။ ဦးရဲမြင့် အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်(၂)၊ ဒဂုံလွင်လမ်း၊ တာမွေလေး ရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၅။ ဦးရန်ဇီရှန်း(ခ) ဦးမောင်ဝင်း ဒါရိုက်တာ | အမှတ်(၂၆၂/ ၂၆၄) ပြည်လမ်း၊ စီ(၁၀-၁)၊ ဒဂုံစင်တာ၊ စမ်းချောင်း မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၆။ ဦးဝင်းရှိန်(ခ) ဦးရွှင်ပိန်း ဒါရိုက်တာ | အမှတ်(၂၀)၊ မြိုင်ဟေဝန်အိမ်ရာ၊ (၈)မိုင်၊ မရမ်းကုန်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၇။ ဦးစိုးလှိုင် ဒါရိုက်တာ | အမှတ်(၁၀၇)၊ တက္ကသိုလ်ရိပ်သာလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၈။ ဦးအောင်ဇော်နိုင် ဒါရိုက်တာ | အခန်း(၁၀၀၃)၊ အိုလံပစ်တာဝါ(၂)၊ ရေဗော်ဗျူးဥယျာဉ်အိမ်ရာ၊ ဆင်မင်း ရပ်ကွက်၊ အလုံမြို့နယ်၊ ရန်ကုန်မြို့။ |

၁။ ကုမ္ပဏီ၏တယ်လီဖုန်းအမှတ်/ - ၀၁-၂၁၁၄၃၀၊

ဖက်စ်နံပါတ် ၀၁-၂၂၆၉၇၉၊

| | |
|---|---|
| ၂။ ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ | - အိုလံပစ်တာဝါ(၂)၊ ရေဗာဗျူးဥယျာဉ်အိမ်ရာ၊ ဒုတိယထပ်၊ ဆင်မင်း ရပ်ကွက်၊ အလုံမြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ် အမည်/ရာထူး | - ဦးရဲမြင့် (အုပ်ချုပ်မှုဒါရိုက်တာ) |
| ၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ | - လမ်းဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ | - ၃၈ /၁၉၉၂ -၁၉၉၃ (၂၃ - ၄ -၁၉၉၂) |
| ၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံး မည့်နေ့စွဲ | - ( ၃၀-၈-၂၀၁၀) |

**ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း**

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ကမ္ဘောဇလမ်းကြောင်း ရှာဖွေရေးစက်မှုလုပ်ငန်းများ လီမိတက် (Kanbawza Pathfinder Industries Ltd.) | ၁။ ဦးအောင်ကိုဝင်း ဥက္ကဌ<br>၂။ ဒေါ်နန်းသန်းထွေး ဒုတိယဥက္ကဌ<br>၃။ ဦးမိုးစန်းအောင် အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်(၆၁၅/၂)၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။<br>အမှတ်(၆၁၅/၂)၊ ပြည်လမ်း၊ ကမာရွတ် မြို့နယ်၊ ရန်ကုန်မြို့။<br>အမှတ်(၈၀/စီ)၊ ကမ္ဘောဇလမ်းသွယ်(၂)၊ ရွှေတောင်ကြား (၁) ရပ်ကွက်၊ ဗဟန်း မြို့နယ်၊ ရန်ကုန်မြို့။ |

၁။ ကုမ္ပဏီ၏တယ်လီဖုန်းအမှတ်/ဖက်စ်နံပါတ် - ၀၁-၅၃၀၇၁၃၊ ၀၁-၅၃၀၇၁၄၊

၂။ ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ - အမှတ် (အက်စ်/အက်စ်-၃၈) ၊ (၅)လွှာ၊ ရွှေသရဖီရိပ်မွန် အိမ်ရာ၊ဘုရင့်နောင်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။

၃။ ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်/ရာထူး - ဦးမိုးစန်းအောင် (အုပ်ချုပ်မှုဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့်လုပ်ငန်းများ - လမ်းဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံသည့်လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ - ၃၃၁/၂၀၀၁-၂၀၀၂ (၅ -၇ -၂၀၀၁)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးမည့်နေ့စွဲ - (၃၀-၉ -၂၀၁၀ )

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင် များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ယုဇနဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Yuzana Construction Co., Ltd.) | ၁။ ဦးဌေးမြင့် ဥက္ကဋ္ဌ | အမှတ်(၃၃)၊ အေးရိပ်မွန်လမ်း၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဒေါ်မြတ်မြတ်မွန် အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်(၁)၊ ရတနာမွန်(၈)လမ်း၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဒေါ်ဇာခြည်ဌေး ဒါရိုက်တာ | အမှတ်(၃၃)၊ အေးရိပ်မွန်လမ်း၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၄။ ဒေါ်မေမိုးသန့် ဒါရိုက်တာ | တိုက်(၆)၊ အခန်း(၆)၊ နှင်းဆီလမ်း၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။ |

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီ၏တယ်လီဖုန်းအမှတ်/ ဖက်စ်နံပါတ် | - ၀၁-၅၄၀၇၄၈၊ ၅၄၀၇၄၉၊ ၀၁-၅၄၀၇၄၉ |
| ၂။ | ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ | - အမှတ် (၁၃၀)၊ ရွှေဂုံတိုင်လမ်း၊ ယုဇနစင်တာ၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ | ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ် အမည်/ရာထူး | - ဒေါ်မြတ်မြတ်မွန်(အုပ်ချုပ်မှုဒါရိုက်တာ) |
| ၄။ | ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ | - လမ်းဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ | - ၁၀၉၂/ ၂၀၀၆-၂၀၀၇ (၂၄ - ၁၁ -၂၀၀၆) |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံး မည့်နေ့စွဲ | - (၂၃ -၁၁-၂၀၁၀ ) |

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | သော်တာဝင်းဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Thaw Tar Win Construction Co., Ltd.) | ၁။ ဦးစိုင်းဖိလစ်ရီ (ခ) ဦးနေဝင်းကျော် အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်(၂၄)၊ ဇီဇဝါရိပ်သာ၊ သံသုမာလမ်း၊ တောင်ဥက္ကလာပ မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဦးကြည်စိုး ဒါရိုက်တာ | အမှတ်(၂၄)၊ ရွှေတိဂုံဘုရားလမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဦးစိုင်းကျော် ဒါရိုက်တာ | အမှတ်(၁၁)၊ ငုရွှေဝါလမ်း၊ (၆၄ x ၆၅) လမ်းကြား၊ မန္တလေးမြို့သစ်။ |
| | | ၄။ ဦးယုတင် ဒါရိုက်တာ | အမှတ်(၁၁)၊ ငုရွှေဝါလမ်း၊ (၆၄ x ၆၅) လမ်းကြား၊ မန္တလေးမြို့သစ်။ |
| | | ၅။ ဦးကျော်စွာလင်း ဒါရိုက်တာ | အမှတ်(၂၁၆/၂၂၂)၊ အခန်း(စီ/ဒီ)၊ ဗိုလ်မြတ်ထွန်းအိမ်ရာ၊ မဟာဗန္ဓုလ လမ်း၊ပုစွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၆။ ဒေါ်သန်းသန်းထွေး ဒါရိုက်တာ | အမှတ်(၁၈၅)၊ (၉)ရပ်ကွက်၊ ရွက်လှလမ်း၊ ကျောက်မဲမြို့နယ်၊ ရှမ်း ပြည်နယ်မြောက်ပိုင်း။ |

၁။ ကုမ္ပဏီ၏တယ်လီဖုန်းအမှတ်/ ဖက်စ်နံပါတ် - ၀၁-၆၆၅၃၉၇၊ ၀၁-၆၆၂၅၈၀၊ ၀၁-၆၆၁၆၃၉၊

၂။ ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ - ဟိုတယ်ရန်ကုန် ၊ တိုက်အမှတ်(၃) ၊ အခန်း နံပါတ် (၃၀၂ )၊ကမ္ဘာအေးဘုရားလမ်းနှင့်ပြည်လမ်းထောင့်၊ (၈)မိုင်လမ်းဆုံ၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။

၃။ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ် အမည်/ရာထူး - ဦးစိုင်းဖိလစ်ရီ (ခ) ဦးနေဝင်းကျော် (အုပ်ချုပ်မှုဒါရိုက်တာ)

| | |
|---|---|
| ၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ | - လမ်းဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ | - ၁၃၉၄/၂၀၀၄-၂၀၀၅ (၆ - ၁ - ၂၀၀၅) |
| ၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံး မည့်နေ့စွဲ | - ( ၅ -၁ - ၂၀၁၁ ) |



ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၉ခုနှစ်၊ ဇူလိုင်လ(၂၉)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒ ကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၄/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီ အစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁ | ၇၀၄ | (က) အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်မှ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ (ရေတာရှည်-ပျဉ်းမနား) လမ်းအပိုင်း(မိုင်တိုင် ၁၉၄/၀ မှ မိုင်တိုင်၂၂၁/၂ အထိ) (၂၇ မိုင် ၂ ဖာလုံ) နှင့် မြို့ရှောင်လမ်း (၁၂ မိုင် ၃.၅ ဖာလုံ) စုစုပေါင်း (၃၉) မိုင် (၅.၅)ဖာလုံ ရှည်သောလမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံရန်။<br><br>စဉ် / ယာဉ်အမျိုးအစား / လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း/ကျပ်<br>(က) (၁)တန်အောက်ယာဉ်ငယ်များ — ၄ကျပ် ၁၃ပြား<br>(ခ) (၁)တန်မှ(၃)တန်အထိယာဉ်များ — ၁၂ကျပ် ၃၉ပြား<br>(ဂ) (၅)တန်အောက်ကားကြီးများ — ၂၀ကျပ် ၆၅ပြား<br>(ဃ) (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီးများ — ၄၁ကျပ် ၃၀ပြား<br>(င) (၂၀)တန်ထိကုန်တင်ယာဉ်ကြီးများ — ၈၂ကျပ် ၅၉ပြား<br>(စ) (၂၀)တန်အထက်တန်ပို(၁)တန်လျှင် — ၈ကျပ် ၂၆ပြား<br><br>(ခ) လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို ယင်းတံတားတည်ဆောက်သည့် ကုမ္ပဏီကသာ ကောက်ခံရန်နှင့် တံတားတည်ဆောက်သည့်ကုမ္ပဏီ မဟုတ်ပါက လေလံဖြင့်သာ ဆောင်ရွက်ရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်။<br>ဆောက်လုပ်ရေးဝန်ကြီးဌာန။<br><br> |

၃၂



ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၉ခုနှစ်၊ ဇူလိုင်လ(၂၉)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၄/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီ အစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| | ၃၀၄ | (ဂ) စာမျက်နှာ(၃) အပိုဒ်(ဆ) " အရေးပေါ်(လ်)ကုမ္ပဏီလီမိတက်သည် လုပ်ငန်းတစ်ခု လုံးအား တစ်ဆင့်လုပ်ကိုင်ခွင့် မပြုရဘဲ လုပ်ငန်းတစ်စိတ်တစ်ဒေသကိုမူ တစ်ဆင့် လုပ်ကိုင်ခွင့်ပြုနိုင်သည် " ကို ထည့်သွင်းဖော်ပြခြင်းမပြုရန်။<br>(ဃ) လမ်း၊ တံတားများမှာ standard နှင့်အညီ ဖောက်လုပ်ထားပါက ရန်ကုန် - မန္တလေး အမြန်လမ်းမနှုန်းအတိုင်း ကောက်ခံရန်နှင့် ပြုပြင်ထားရုံမျှသာ ပြုလုပ်ထားပါက လမ်း၊ တံတား အသုံးပြုခ ကောက်ခံခွင့် မပြုရန်။ | |



ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၉ခုနှစ်၊ ဇူလိုင်လ(၂၉)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၄/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီ အစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၄-၈ | ၇၀၅ | (က) အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်မှ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီး၏(ပျဉ်းမနား - ရမည်းသင်း) လမ်းအပိုင်း(မိုင်တိုင် ၂၄၈/၀ မှ မိုင်တိုင်၂၉၀/၀ အထိ) (၄၂ မိုင်) နှင့် ပျဉ်းမနားမြို့ရှောင်လမ်း (၃ မိုင် ၄.၅ဖာလုံ) စုစုပေါင်း (၄၅)မိုင် (၄.၅)ဖာလုံ ရှည်သောလမ်းအပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊တံတား အသုံးပြုခကောက်ခံရန်။<br><br>စဉ် / ယာဉ်အမျိုးအစား / လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း/ကျပ်<br>(က) (၁)တန်အောက်ယာဉ်ငယ်များ — ၄ကျပ် ၁၃ပြား<br>(ခ) (၁)တန်မှ(၃)တန်အထိယာဉ်များ — ၁၂ကျပ် ၃၉ပြား<br>(ဂ) (၅)တန်အောက်ကားကြီးများ — ၂၀ကျပ် ၆၅ပြား<br>(ဃ) (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီးများ — ၄၁ကျပ် ၃၀ပြား<br>(င) (၂၀)တန်ထိကုန်တင်ယာဉ်ကြီးများ — ၈၂ကျပ် ၅၉ပြား<br>(စ) (၂၀)တန်အထက်တန်ပို(၁)တန်လျှင် — ၈ကျပ် ၂၆ပြား<br><br>(ခ) လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို ယင်းတံတားတည်ဆောက်သည့် ကုမ္ပဏီကသာ ကောက်ခံရန်နှင့် တံတားတည်ဆောက်သည့်ကုမ္ပဏီ မဟုတ်ပါက လေလံဖြင့်သာ ဆောင်ရွက်ရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်။<br>ဆောက်လုပ်ရေးဝန်ကြီးဌာန |

ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ
စာအမှတ်
ရက်စွဲ ၄-၈-၂၀၀၉


kko /sk 3-8-2009



ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၉ခုနှစ်၊ ဇူလိုင်လ(၂၉)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၄/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီ အစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၄-၈ | ၇၀၅ | (ဂ) စာမျက်နှာ(၃) အပိုဒ်(ဆ) " အေးရှားဝါး(လ်)ကုမ္ပဏီ လီမိတက်သည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်လုပ်ကိုင်ခွင့် မပြုရဘဲ လုပ်ငန်းတစ်စိတ်တစ်ဒေသကိုမူ တစ်ဆင့် လုပ်ကိုင်ခွင့်ပြုနိုင်သည် " ကို ထည့်သွင်းဖော်ပြခြင်းမပြုရန်။<br>(ဃ) လမ်း၊ တံတားများမှာ standard နှင့်အညီ ဖောက်လုပ်ထားပါက ရန်ကုန်-မန္တလေး အမြန်လမ်းမနှုန်းအတိုင်း ကောက်ခံရန်နှင့် ပြုပြင်ထားရုံမျှသာ ပြုလုပ်ထားပါက လမ်း၊ တံတားအသုံးပြုခ ကောက်ခံခွင့် မပြုရန်။ | |



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ရက- ၆(ခ)/မ- လမ်း /၂၀၀၉ ( ၁၄၉၁၃ )၊

**ရန်ကုန် - မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ လမ်းအပိုင်းများအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရန် အတွက် အဆို ပြုချက်များ တင်ပြခြင်းကိစ္စ။**

**အကျဉ်းချုပ်။** ။ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ လမ်းအပိုင်း စုစုပေါင်း (၈)ပိုင်းအား ကုမ္ပဏီ (၇)ခုမှ BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ကော်မရှင် ခွင့်ပြုမိန့် ရရှိရေး အတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

ယင်းအဆိုပြုချက်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးများတွင် တင်ပြပြီး အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် ( Asia World Co., Ltd. ) မှ ဆောင်ရွက်သည့် (ရေတာရှည် - ပျဉ်းမနား) နှင့် (ပျဉ်းမနား - ရမည်းသင်း) လမ်းအပိုင်း အဆိုပြုချက် (၂)ခု အား (၂၉-၇-၂၀၀၉) နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၂၄/ ၂၀၀၉) အစည်းအဝေး၌ တင်ပြ လမ်းညွှန်မှုခံယူခဲ့ပြီး ဖြစ်ပါသည်။ ယခုအခါ အောက်ပါ လမ်းအပိုင်း(၆)ပိုင်းအား ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြပေးပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြလာခြင်း ဖြစ်ပါသည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ထောက်ကြံ့ - ပဲခူး | ၃၂ မိုင်၊ ၆ ဖာလုံ | ကျပ် ၁၁၃၁၈.၅၁ သန်း (US$ ၆.၂၅ သန်း အပါအဝင်) | မက်စ် (မြန်မာ) ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၂။ | ပဲခူး - ညောင်လေးပင် | ၄၈ မိုင် | ကျပ် ၁၃၅၀၂.၃၀ သန်း | ရွှေသံလွင်အဝေးပြေး လမ်းမကြီး ကုမ္ပဏီ လီမိတက် |
| ၃။ | ညောင်လေးပင် - ဖေယျာဝတီ | ၄၈ မိုင် | ကျပ် ၁၁၄၀၂.၇၀ သန်း (US$ ၁၄.၂၉ သန်း အပါအဝင်) | ဟိုက်စတား ကုမ္ပဏီ လီမိတက် |
| ၄။ | ဖေယျာဝတီ - ရေတာရှည် * | ၄၈ မိုင် | ကျပ် ၂၇၁၀၇.၆၂ သန်း (US$ ၉.၃၁ သန်း အပါအဝင် | ကမ္ဘောဇလမ်းကြောင်း ရှာဖွေရေး စက်မှု လုပ်ငန်းများလီမိတက် |

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၅။ | ရမည်းသင်း - မိတ္ထီလာ | ၄၈ မိုင် | ကျပ် ၂၁၆၀၀.၀၀ သန်း | ယုဇန ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၆။ | မိတ္ထီလာ - မန္တလေး | ၈၇ မိုင်၊ ၇ ဖာလုံ | ကျပ် ၅၅၇၇၅.၀၀ သန်း | သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

ရန်ကုန်- မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ လမ်းအပိုင်းများနှင့် စပ်လျဉ်း၍ ကုန်သွယ်မှုမူဝါဒကောင်စီ ၏ (၂၄/၂၀၀၉) (၂၉-၇-၂၀၀၉) အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က) အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်မှ ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ (ရေတာရှည် - ပျဉ်းမနား) နှင့် (ပျဉ်းမနား - ရမည်းသင်း) လမ်းအပိုင်း တို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခများ ကောက်ခံရန်၊

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း (ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်ထိကုန်တင်ယာဉ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

(ခ) လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို ယင်းတံတား တည်ဆောက်သည့်ကုမ္ပဏီကသာ ကောက်ခံရန်နှင့် တံတားတည်ဆောက်သည့်ကုမ္ပဏီ မဟုတ်ပါက လေလံဖြင့်သာ ဆောင်ရွက်ရန်၊

(ဂ) "အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်သည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်လုပ်ကိုင်ခွင့်မပြုရဘဲ လုပ်ငန်း တစ်စိတ် တစ်ဒေသကိုမူ တစ်ဆင့်လုပ်ကိုင်ခွင့် ပြုနိုင်သည် " ကို ထည့်သွင်းဖော်ပြခြင်းမပြုရန်၊

ယခုတင်ပြသည့် အဆိုပြုလမ်းအပိုင်း (၆)ပိုင်းတွင် ကုန်သွယ်မှု မူဝါဒကောင်စီ ၏ (၂၄/၂၀၀၉)(၂၉-၇-၂၀၀၉) အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ တံတားခကောက်ခံသည့်ကိစ္စနှင့် လုပ်ငန်းတစ်ဆင့်ခံ လုပ်ကိုင်ခြင်း ကိစ္စများကို ပဋိညာဉ်စာချုပ် (မူကြမ်း) များတွင် ပြင်ဆင်တင်ပြထားပါသည်။ သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သည့် မိတ္ထီလာ - မန္တလေးလမ်းအပိုင်း၌ ကုမ္ပဏီမှ တံတား(၃)စင်း တည်ဆောက်ထားပြီး တံတားအသုံးပြုခ ကောက်ခံရငွေကို ကုမ္ပဏီ၏ ဝင်ငွေတွင် ထည့်သွင်းဖော်ပြထားပါသည်။ ကျန်လမ်းအပိုင်း (၅)ပိုင်းရှိ တံတားများမှာ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏တံတားများဖြစ်ပြီး ကုမ္ပဏီမှလေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း ဖြစ်ကြောင်း တင်ပြထားပါသည်။ ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီးတွင် (၁၈၀) ပေ အထက် တံတားကြီး (၂၅)စင်းရှိပါသည်။

လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ)မှာ (၃)နှစ် ဖြစ်ပြီး လုပ်ငန်းသက်တမ်းကာလ နှစ် (၄၀) ဖြစ်ပါသည်။

လမ်း၊ တံတား အသုံးပြုခရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည် -

| | | | |
|---|---|---|---|
| (၁) | ပထမ (၃)နှစ် အတွက် | - | ကင်းလွတ်ခွင့်ကာလ |
| (၂) | (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် | - | ၅% ပေးသွင်းရန် |
| (၃) | (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် | - | ၁၀% ပေးသွင်းရန် |
| (၄) | (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် | - | ၁၅% ပေးသွင်းရန် |
| (၅) | (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် | - | ၂၀% ပေးသွင်းရန် |

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့နှင့်အညီ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီးမှ အောက်ပါလမ်းအပိုင်း (၆)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုရန် သဘောတူ - မတူ။

(က) ထောက်ကြံ့ - ပဲခူးလမ်းအပိုင်း (၃၂ မိုင် ၆ ဖာလုံ)
(မက်စ်(မြန်မာ) ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

(ခ) ပဲခူး - ညောင်လေးပင် လမ်းအပိုင်း (၄၈ မိုင်)
(ရွှေသံလွင်အဝေးပြေးလမ်းမကြီး ကုမ္ပဏီ လီမိတက်)

(ဂ) ညောင်လေးပင် - ဇေယျာဝတီ လမ်းအပိုင်း (၄၈ မိုင်)
(ဟိုက်စတား ကုမ္ပဏီလီမိတက်)

(ဃ) ဇေယျာဝတီ - ရေတာရှည် လမ်းအပိုင်း (၄၈ မိုင်)
(ကမ္ဘောဇလမ်းကြောင်းရှာဖွေရေးစက်မှု လုပ်ငန်းများ လီမိတက်)

(င) ရမည်းသင်း - မိတ္ထီလာ လမ်းအပိုင်း (၄၈ မိုင်)
(ယုဇန ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)

(စ) မိတ္ထီလာ - မန္တလေးလမ်းအပိုင်း (၈၇ မိုင် ၇ ဖာလုံ)
(သော်တာဝင်း ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

ပြည်ထောင်စု မြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

Fax-95-67-406333 တယ်လီဖုန်း-၀၆၇- ၄၀၆၃၃၄၊ ၄၀၆၀၇၅

စာအမှတ်၊ ရက-၆(က)/မ-၉၆၄/၉၇၁/၁၀၀၀/၂၀၀၉(၁၈၈၈၅-၈)
ရက်စွဲ ၊ ၂၀၀၉ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက် ။

အကြောင်းအရာ။ ။ ရန်ကုန် - မန္တလေး ပြည်ထောင်စု လမ်းမကြီး ၏ ထောက်ကြန့် - ပဲခူး (မက်စ် မြန်မာ ဆောက်လုပ်ရေး ကုမ္ပဏီ ) ၊ ပဲခူး - ညောင်လေးပင် (ရွှေသံလွင် အဝေးပြေး လမ်းမကြီး ကုမ္ပဏီ ) နှင့် မိတ္ထီလာ - မန္တလေး (သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ) လမ်းအပိုင်း (၃)ခု တွင် BOT စနစ်ဖြင့် ဆောင်ရွက်ပြီး လမ်း အသုံးပြုခများ ကောက်ခံခြင်း လုပ်ငန်း အဆိုပြုလွှာပြန်လည်တင်ပြလာခြင်းကိစ္စ။

ရည် ညွှန်း ချက်။ ။ ဆောက်လုပ်ရေးဝန်ကြီးဌာန၏-

(၁)(၁၁-၆-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၉ (ကုမ္ပဏီ) (စီ ၄၀၉၆) ။

(၂)(၇-၇-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၉ (ကုမ္ပဏီ) (စီ ၄၆၀၉) ။

(၃)(၃၀-၆-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၉ (ကုမ္ပဏီ) (စီ ၄၃၁၀) ။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါ စာများဖြင့် တင်ပြခြင်းကို (၁၇-၇-၂၀၀၉) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၅/၂၀၀၉)အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ " ရန်ကုန်- မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ လမ်းအပိုင်း(၃)ခု တွင် BOT စနစ်ဖြင့် လမ်း အသုံးပြုခများ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် အဆိုပြုလွှာများကို အချက်အလက်များပြည့်စုံစွာဖြင့် ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြရန် "ဆုံးဖြတ်ခဲ့ပါသည်။

(၁) ထောက်ကြန့်- ပဲခူးလမ်းအပိုင်း
(မက်စ် မြန်မာ ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်)

(၂) ပဲခူး - ညောင်လေးပင်လမ်းအပိုင်း
(ရွှေသံလွင် အဝေးပြေး လမ်းမကြီး ကုမ္ပဏီ လီမိတက် )

(၃) မိတ္ထီလာ- မန္တလေးလမ်းအပိုင်း
(သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်)

၃။ အထက်ပါ အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြနိုင်ရန် ရည်ညွှန်းချက်ပါ လမ်းအပိုင်း(၃)ခု၏ အဆိုပြုလွှာ(၂၇)စုံစီကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy နှင့် အတူ ဤကော်မရှင် သို့ ပေးပို့ပါရန် အကြောင်းကြား အပ်ပါသည်။

ဉက္ကဌ(ကိုယ်စား)
(ဗိုလ်မှူးကြီးသူရိန်ဇော်၊ အတွင်းရေးမှူး )

ဝန်ကြီးရုံး၊
ဆောက်လုပ်ရေးဝန်ကြီးဌာန။

မိတ္တူ-

(၁) ဦးဆောင်ညွှန်ကြားရေးမှူး
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။

(၂) မက်စ်မြန်မာကုမ္ပဏီလီမိတက်။

(၃) ရွှေသံလွင်အဝေးပြေးလမ်းမကြီးကုမ္ပဏီလီမိတက်။

(၄) သော်တာဝင်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်။

(၅) ရုံးလက်ခံ/မျှောစာတွဲ။

3-Roads

ကော်မရှင်၏ ၂၅/ ၂၀၀၉ အစည်းအဝေး

အကြောင်းအရာ။ ။ ရန်ကုန်- မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ ထောက်ကြံ့-ပဲခူး (မက်စ် မြန်မာ ဆောက်လုပ်ရေး ကုမ္ပဏီ)၊ ပဲခူး-ညောင်လေးပင် (ရွှေသံလွင် အဝေးပြေးလမ်းမကြီး ကုမ္ပဏီ)နှင့် မိတ္ထီလာ-မန္တလေး (သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ) လမ်းအပိုင်း (၃)ခု တွင် BOT စနစ်ဖြင့် ဆောင်ရွက်ပြီး လမ်းအသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း အဆိုပြုလွှာ ပြန်လည်တင်ပြလာခြင်း ကိစ္စ။

၁။ ရန်ကုန်-မန္တလေး ပြည်ထောင်စု လမ်းမကြီး၏ BOT စနစ်ဖြင့် လမ်းလုပ်ငန်း လုပ်ကိုင်ခွင့် အဆိုပြုလွှာများကို ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြခြင်းနှင့်စပ်လျဉ်း၍ (၂၆-၃-၂၀၀၉)နေ့တွင် ကျင်းပသော ဤကော်မရှင်၏ (၁၁/ ၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က) လမ်းတံတား အသုံးပြုခ ကောက်ခံနှုန်းအား ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ အထက်အဖွဲ့အစည်း၏ လမ်းညွှန်ချက်နှင့် ကိုက်ညီမှုရှိရေးအတွက် တွက်ချက်သတ်မှတ်ပေးရန်။

(ခ) လုပ်ငန်း အဆိုပြုချက်များ၏ ဝင်ငွေ တွက်ချက်ရာတွင် တည်ဆောက်ရေး ကာလ (၃)နှစ် နှင့် BOT သက်တမ်းကာလ (၄၀)နှစ် ဖြင့် စုစုပေါင်း (၄၃)နှစ် အတွက် တွက်ချက်တင်ပြရန်။

(ဂ) ပြည်တွင်းချေးငွေရယူခြင်းအတွက် ပေးရသည့်အတိုးနှုန်းကို နိုင်ငံတော်ပိုင် မြန်မာ့စီးပွားရေးဘဏ်မှ သတ်မှတ်နှုန်းဖြင့် တပြေးညီတွက်ချက်ရန်။

(ဃ) အဆိုပြုလုပ်ငန်းများ၏ တည်ဆောက်ရေးကာလ (၃)နှစ်နှင့် စီးပွားဖြစ်လုပ်ငန်း စတင်သည့်နေ့မှ (၃)နှစ် တို့ကို ဌာနမှ သတ်မှတ်ပေးရန်။

(င) လုပ်ငန်းသုံးစက်ပစ္စည်းများ၊ လောင်စာဆီ/ချောဆီ၊ လုပ်ငန်းသုံးယာဉ်/ လူစီးယာဉ်များ တင်သွင်းရန် လိုအပ်ပါက ဆောက်လုပ်ရေးဝန်ကြီးဌာနမှ စိစစ်ထောက်ခံပေးပါရန်။

(စ) အထက်ပါအချက်များ ဆောင်ရွက်ပြီးပါက ကော်မရှင်သို့ ပြန်လည်တင်ပြရန်။

၂။ အထက်ပါ အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်ပြီး အောက်ပါလမ်းအပိုင်း (၃)ခု၏ လုပ်ငန်းအဆိုပြုလွှာများကို ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြလာခြင်းဖြစ်ပါသည် -

(က) ထောက်ကြံ့ - ပဲခူး လမ်းအပိုင်း
(မက်စ် မြန်မာ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)

(ခ) ပဲခူး - ညောင်လေးပင်လမ်းအပိုင်း
(ရွှေသံလွင်အဝေးပြေး လမ်းမကြီး ကုမ္ပဏီလီမိတက်)

(ဂ) မိတ္ထီလာ - မန္တလေး လမ်းအပိုင်း
(သော်တာဝင်းဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)

၃။ အဆိုပြုလွှာများတွင် အစည်းအဝေး ဆုံးဖြတ်ချက်အရ အောက်ပါအတိုင်း တွက်ချက်တင်ပြထားပါသည် -

(က) လမ်းတံတားအသုံးပြုခ ကောက်ခံနှုန်းများကို တိုးမြှင့်တင်ပြလာပါသည်။ (ဥပမာ- ၁- တန်အောက် ယာဉ်ငယ်များအတွက် တစ်မိုင်လျှင် (၂ိ - ၀၈ါး) မှ (၄ိ - ၁၃ါး) ဖြင့် တိုးမြှင့်တွက်ချက်ထားပါသည်)

(ခ) လုပ်ငန်းသက်တမ်း ကာလမှာ တည်ဆောက်ရေး ကာလ (၃)နှစ်ပြီးနောက် နှစ် (၄၀)ဖြစ်ကြောင်း စာချုပ်တွင် ထည့်သွင်း ချုပ်ဆိုထားပါသည်။ လုပ်ငန်း အဆိုပြုချက်၏ ဝင်ငွေကို တည်ဆောက်ရေးကာလ (၃)နှစ် နှင့် BOT သက်တမ်းကာလ နှစ်(၄၀)ဖြင့် စုစုပေါင်း (၄၃) နှစ် အတွက် တွက်ချက်တင်ပြထားပါသည်။

(ဂ) ပြည်တွင်းချေးငွေရယူခြင်းများအတွက် အတိုးနှုန်းကို တစ်နှစ်လျှင် (၁၇%)အတိုးဖြင့် တစ်ပြေးညီ တွက်ချက်တင်ပြထားပါသည်။

(ဃ) တည်ဆောက်ရေးကာလမှာ ထောက်ကြံ့-ပဲခူး လမ်းအပိုင်းအတွက် (၁-၄-၂၀၀၈) နေ့မှ စ၍ (၃)နှစ် ၊ ပဲခူး - ညောင်လေးပင်လမ်းအပိုင်း နှင့် မိတ္ထီလာ - မန္တလေး လမ်းအပိုင်းတို့ အတွက် (၁-၁၀-၂၀၀၂) နေ့မှ စ၍ (၃)နှစ် ဖြစ်ပါသည်။

၄။ လမ်းအသုံးပြုခ ကောက်ခံရငွေအပေါ် ကုမ္ပဏီများမှ နိုင်ငံတော်သို့ အောက်ပါအတိုင်း ပေးသွင်းကြမည် ဖြစ်ပါသည်။

| | |
|---|---|
| (က) ပထမ (၃)နှစ်အတွက် | - ကင်းလွတ်ခွင့်ကာလ |
| (ခ) ၄ နှစ်မှ ၁၃ နှစ်အထိ (၁၀)နှစ် | - ၅ % ပေးသွင်းရန် |
| (ဂ) ၁၄နှစ်မှ ၂၃ နှစ်အထိ (၁၀)နှစ် | - ၁၀ % ပေးသွင်းရန် |
| (ဃ) ၂၄ နှစ်မှ ၃၃ နှစ်အထိ (၁၀)နှစ် | - ၁၅ % ပေးသွင်းရန် |
| (င) ၃၄ နှစ်မှ ၄၀ နှစ်အထိ (၇)နှစ် | - ၂၀ % ပေးသွင်းရန် |

၅။ <u>စိစစ်တင်ပြချက်</u>

(က) လမ်းအသုံးပြုခ ကောက်ခံနှုန်းများကို အောက်ပါအတိုင်း တိုးမြှင့် တင်ပြလာပါသည်-

(တစ်မိုင်နှုန်း)

| စဉ် | အကြောင်းအရာ | ဌာနမှ ယခင် တင်ပြခဲ့သည့်နှုန်း | ယခု ပြင်ဆင် တင်ပြချက် |
|---|---|---|---|
| ၁။ | (၁)တန်အောက် ယာဉ်ငယ်များ | ၂ိ- ၀၈ါး | ၄ိ- ၁၃ါး |
| ၂။ | (၁)တန်မှ (၃)တန်အထိ ယာဉ်များ | ၆ိ- ၂၅ါး | ၁၂ိ- ၃၉ါး |
| ၃။ | (၅)တန်အောက် ကားကြီးများ | ၁၀ိ- ၄၂ါး | ၂၀ိ- ၆၅ါး |
| ၄။ | (၁၀)တန်အောက် ကုန်တင်ယာဉ်ကြီးများ | ၂၀ိ- ၈၃ါး | ၄၁ိ- ၃၀ါး |
| ၅။ | (၂၀)တန်အထိ ကုန်တင်ယာဉ်ကြီးများ | ၄၁ိ - ၆၇ါး | ၈၂ိ- ၅၉ါး |
| ၆။ | (၂၀)တန်အထက် တန်ပို | တစ်တန်လျှင် ၂၀ိ/- | တစ်မိုင်လျှင် ၈ိ - ၂၆ါး |

(ခ) ပဲခူး-ညောင်လေးပင် လမ်းအပိုင်း (ရွှေသံလွင် အဝေးပြေး လမ်းမကြီး ကုမ္ပဏီ)နှင့် မိတ္ထီလာ-မန္တလေးလမ်းအပိုင်း (သော်တာဝင်း ဆောက်လုပ်ရေး ကုမ္ပဏီ) ၏ တည်ဆောက်ရေးကာလ (၃)နှစ် သည် (၁-၁၀-၂၀၀၂) နေ့မှ (၃၀-၉-၂၀၀၅) နေ့အထိ ဖြစ်ပါသည်။ တည်ဆောက်ရေး ကာလအတွင်း လမ်းအသုံးပြုခ ကောက်ခံငွေ ရရှိပါသည်။တည်ဆောက်ရေးကာလ(၃)နှစ်အပြီး (၁-၁၀-၂၀၀၅)နေ့ကိုစီးပွားဖြစ် စတင်သည့်နေ့အဖြစ် သတ်မှတ်ပါက ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ(၁၂)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလသည်(၁-၁၀-၂၀၀၅)နေ့မှ (၃၀-၉-၂၀၀၈)နေ့ အထိ ဖြစ်ပါသည်။

(ဂ) ထောက်ကြံ့-ပဲခူး လမ်းအပိုင်း(မက်စ် မြန်မာ ဆောက်လုပ်ရေး ကုမ္ပဏီ)၏ တည်ဆောက်ရေး ကာလ (၃)နှစ်မှာ (၁-၄-၂၀၀၈) နေ့မှ (၃၁-၃-၂၀၁၁) နေ့အထိ ဖြစ်ပါသည်။

(ဃ) မက်စ် မြန်မာ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်၏ ထောက်ကြံ့ - ပဲခူး လမ်းအပိုင်းအတွက် စက်၊ ယာဉ်၊ ယန္တရားများ တန်ဖိုး စုစုပေါင်း US$ (၂၀.၃၁၅) သိန်းဖိုးအား ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ ထောက်ခံချက်အရ ကော်မရှင်၏ (၁/၂၀၀၉) (၁၄-၁-၂၀၀၉) နှင့် (၁၄/၂၀၀၉) (၂၉-၄--၂၀၀၉) အစည်းအဝေးများမှ ကြိုသွင်းခွင့်ပြုခဲ့ပါသည်။

(င) လုပ်ငန်းသဘောတူ ပဋိညာဉ်စာချုပ်များ (မူကြမ်း)၏ <u>အပိုဒ်- ၉ (ဂ)(၁)</u> တွင် <u>လုပ်ငန်းကာလ</u> ဆိုသည်မှာ ပဋိညာဉ်စာချုပ်ပါ လုပ်ငန်းများကို လုပ်ကိုင်ခွင့်ပြုကြောင်း အကြောင်းကြား သည့်နေ့မှစ၍<u>(၃)နှစ်</u>နှင့် <u>တံတားများ တည်ဆောက်ချိန်</u>

ကို(၅)နှစ်ဟု သတ်မှတ်ပေးထားကြောင်း ဖော်ပြထားပါသည်။ အဆိုပါကာလသည် တည်ဆောက်ရေး ကာလ ဖြစ်ပါသည်။

(စ) လမ်းလုပ်ငန်းအပိုင်းအလိုက် အဆိုပြုလွှာများအရ ကုမ္ပဏီ(၃)ခု၏ ရင်းနှီးမြှုပ်နှံမှု၊ အရင်းအနှီးပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) နှင့် အရင်းကြေကာလတို့ကို အောက်ပါအတိုင်း တင်ပြထားပါသည် -

| စဉ် | လမ်းအပိုင်း/ ကုမ္ပဏီ | ရင်းနှီးမြှုပ်နှံမှု ကျပ် (သန်း) | အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR (ရာခိုင်နှုန်း) | အရင်းကြေ ကာလ (နှစ်) |
|---|---|---|---|---|
| ၁။ | ထောက်ကြံ့ - ပဲခူး (၃၂ မိုင်၊ ၆ ဖာလုံ) (မက်စ် မြန်မာ ဆောက် လုပ်ရေး ကုမ္ပဏီ လီမိတက်) | ၁၁၃၁၈.၅၁ | ၁.၃၂ | ၂၆ |
| ၂။ | ပဲခူး - ညောင်လေးပင် (၄၈ မိုင်) (ရွှေသံလွင် အဝေးပြေး လမ်းမကြီး လီမိတက်) | ၁၃၅၀၂.၃၁ | ၂.၅၆ | ၂၃ |
| ၃။ | မိတ္ထီလာ - မန္တလေး (၈၇ မိုင်၊ ၈ ဖာလုံ) (သော်တာဝင်းဆောက် လုပ်ရေးကုမ္ပဏီလီမိတက်) | ၅၅၇၇၅.၀၀ | ၁.၀၉ | ၃၆ |

(ဆ) ရန်ကုန်-မန္တလေး ပြည်ထောင်စုလမ်းမကြီး၏ လမ်းအပိုင်း (၈)ပိုင်းအနက် အေးရှားဝါးလ် ကုမ္ပဏီမှ ဆောင်ရွက်သည့် လမ်းအပိုင်း (၂)ခု [ ရေတာရှည် - ပျဉ်းမနား နှင့် ပျဉ်းမနား - ရမည်းသင်း] ၏ လုပ်ငန်းအဆိုပြုလွှာများ တင်ပြခြင်းနှင့် စပ်လျဉ်း၍ ကော်မရှင်၏ (၂၂/၂၀၀၉) (၂၆-၆-၂၀၀၉) အစည်းအဝေး မှ BOT စာချုပ်တွင် လုပ်ငန်းသက်တမ်းကာလများကို တစ်ပြေးညီ ပြင်ဆင်ပြီး ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

(ဇ) ယခုလမ်းအပိုင်း (၃)ခု၏ အဆိုပြုလွှာများကို ထပ်မံတင်ပြလာခြင်း ဖြစ် ပါသည်။ ကျန်လမ်းအပိုင်း(၃)ခု၏ လုပ်ငန်းအဆိုပြုလွှာများ တင်ပြလာခြင်း မရှိသေးပါ။

